





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၁၇၈ /၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ် လ ၂၆ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးမောင်ကျော် (ခ) တီကာကွေး

(ခ) **အဘ အမည်** ဦးခင်ငါး (ခ) ဦးခင်ရှိန်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင် အမှတ်** ၁၂/လသန(နိုင်) ၀၁၈၀၇၄

(ဃ) **နေရပ်လိပ်စာ** အမှတ်-(စီ-၄)၊ မွန်မြတ်မေတ္တာလုံးခြင်းအိမ်ရာ၊ ပင်ရွှေညောင်လမ်း၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** BOTစနစ်ဖြင့် လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မန္တလေး-လားရှိုး-မူဆယ် ပြည်ထောင်စု လမ်းမကြီး၏ မိုင်တိုင် ၁၆၉/၀ မှ ၁၈၃/၂ ကြားရှိ လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံ

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၂၀၇၆၁.၉၉ သန်း(အမေရိကန်ဒေါ်လာ ၀.၈၄ သန်းခန့် အပါအဝင် စုစုပေါင်းကျပ် နှစ်သောင်း ခုနှစ်ရာ ခြောက်ဆယ့် တစ်သန်းနှင့် ကိုးသိန်း ကိုးသောင်းတိတိ)

(ဈ) **တည်ဆောက်မှုကာလ** ၂ နှစ် ၂ လ

(ည) **ရင်းနှီးမြှုပ်နှံခွင့်ပြုသည့်သက်တမ်း** ၄၅ နှစ်

၂၆/၃

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၇၂ /၂၀၁၆(မနသ)

၂၀၁၆ ခုနှစ် မတ် လ ၂၆ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်)မှ မန္တလေး-လားရှိုး-မူဆယ် ပြည်ထောင်စု လမ်းမကြီး၏ မိုင်တိုင် ၁၆၉/၀ မှ ၁၈၃/၂ ကြားရှိ လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံရှိ လမ်းအပိုင်းအား BOT စနစ်ဖြင့် လမ်း-တံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြု တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ် မတ်လ ၂၅ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၁/၂၀၁၆) အစည်းအဝေးသို့ တင်ပြခဲ့ရာ "လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံအား BOT စနစ်ဖြင့် လမ်း-တံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုကြောင်း" ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီလီမိတက်) မှ BOT စနစ်ဖြင့် လမ်း-တံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၁၇၈/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသော အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်

တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊စံချိန်စံညွှန်းများ၊ ဈေးနှုန်းများသင့်မြတ်မှုစသည်တို့နှင့်စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Oriental Highway Company Limited(အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များအဖြစ်** ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်) သည် လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံရှိ လမ်းအပိုင်းအား BOTစနစ်ဖြင့် လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ လမ်းဦးစီးဌာန နှင့် ချုပ်ဆိုမည့်ဖောက်လုပ်ပြုပြင် အဆင့်မြှင့်တင်ခြင်း၊ လုပ်ငန်းလုပ်ကိုင်ခြင်းနှင့်

လွှဲပြောင်းပေးခြင်း (Build Operate and Transfer) ပဋိညာဉ် စာချုပ်ပါ သတ်မှတ်ချက် စည်းမျဉ်း စည်းကမ်းများ အတိုင်းလိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ လမ်းဦးစီးဌာနနှင့် Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေးကုမ္ပဏီလီမိတက်)တို့ လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင်(၄)ဖာလုံအား BOT စနစ်ဖြင့် လမ်း-တံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း လုပ်ငန်းလုပ်ကိုင်ရေး ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၈။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်) သည် လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံအား လမ်း-တံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း သက်တမ်းမှာ ကနဦး(၄၅)နှစ် နှင့် ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် နောက်ထပ် (၁၀)နှစ်(၁)ကြိမ် သက်တမ်း တိုးမြှင့်နိုင်သည်။ သက်တမ်းကို ရေတွက်ရာတွင် ပဋိညာဉ် စာချုပ် အပိုဒ် ၂ ပါ လုပ်ငန်း များကို အပြီး ဆောင်ရွက်ပြီးစီးသည့် နေ့ရက်(သို့မဟုတ်) လုပ်ငန်းကာလ (၃)နှစ် ထက်စော၍ လုပ်ငန်းပြီးစီးကြောင်း လက်မှတ်ရေးထိုးပေးသည့်နေ့ ထိုနှစ်ရပ်အနက် စောရာ နေ့ရက်ကာလမှ စတင်သတ်မှတ်ရမည်။

၉။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်) သည် ကောက်ခံရရှိသည့်လမ်းအသုံးပြုခမှ“လမ်းဦးစီးဌာနသို့”အောက်ပါအတိုင်း ပေးသွင်းရမည်-

| | | |
|---|---|---|
| (က) | ပထမ ၅ နှစ်အတွက် | ကင်းလွတ်ခွင့်ကာလ |
| (ခ) | ၆ နှစ်မြောက်မှ ၁၅ နှစ်မြောက်အထိ ၁၀နှစ် | ၅% |
| (ဂ) | ၁၆ နှစ်မြောက်မှ ၂၅ နှစ်မြောက်အထိ ၁၀ နှစ် | ၁၀% |
| (ဃ) | ၂၆ နှစ်မြောက်မှ ၃၅ နှစ်မြောက်အထိ ၁၀ နှစ် | ၁၅% |
| (င) | ၃၆ နှစ်မြောက်မှ ၄၅ နှစ်မြောက်အထိ(၁၀ နှစ် | ၂၀% |

(စ) ၄၅ နှစ်ကျော် ကာလအတွက် အချိန်တိုးမြှင့် ကောက်ခံခွင့် တင်ပြချိန်တွင် နိုင်ငံတော်မှ သတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်းပေးသွင်းရန်ဖြစ်သည်။

၁၀။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်) သည် လုပ်ငန်းလုပ်ကိုင်ခွင့် ပြုသည့်ကာလ(၄၅)နှစ်သို့မဟုတ် လုပ်ငန်းဆက်လက်လုပ်ကိုင်ရန် နောက်ထပ် တိုးမြှင့်ကာလများပြီးဆုံးပါက အဆိုပါလမ်းနှင့် ဂိတ်များကို ဖောက်လုပ် ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထားအတိုင်း လမ်းဦးစီးဌာနသို့ အဖိုးစားနား တစ်စုံတစ်ရာ မရှိဘဲ လွှဲပြောင်းပေးရမည်။

၁၁။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၀)၊ ပုဒ်မ ၁၉(ဂ)ပါ သတ်မှတ်ချက်နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်

အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေး နှင့် စာရင်း ဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၂။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှုဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၃။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံး လုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၄။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေး တို့အတွက် ကနဦး ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Initial Environmental Examination-IEE)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက် ပြီးစီးမှု အခြေအနေကို ဤကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီး ဌာနတို့သို့ ပေးပို့ အစီရင် ခံရမည်။

၁၅။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်) သည် ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။

၁၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပမာဏ၊ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နေရပ်

လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၇။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်) သည် မြန်မာ နိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ သက်ဆိုင်ရာ ဝန်ကြီးဌာနများနှင့် အဖွဲ့အစည်းများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

၁၈။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလမ်းပိုင်းတရားဝင် ဖွင့်လှစ်သည့်နေ့ရက် (စီးပွားဖြစ်စတင် ဆောင်ရွက်သည့်နေ့ရက်) ကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(c)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ရကာ-၄/မ- ၁၅၂၂ / ၂၀၁၆( ၄၉၀-ပ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၆ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ
ပြည်ထဲရေးဝန်ကြီးဌာန
ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန
ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော် ဗဟိုဘဏ်
ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး၊ တောင်ကြီးမြို့
ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လမ်းဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ တံတားဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
မန်နေးဂျင်းဒါရိုက်တာ ၊ Oriental Highway Company Limited (အိုရီရန်တယ်ဟိုင်းဝေး ကုမ္ပဏီ လီမိတက်)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၄

စာအမှတ်၊ ရက-၄/မ-ထွေ/၂၀၁၆ ( ၅၈၁ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် မေ လ ၅ ရက်

သို့

ညွှန်ကြားရေးမှူးချုပ်
အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်
ကုန်သွယ်ရေးဦးစီးဌာန

အကြောင်းအရာ။ **ကော်မရှင်ခွင့်ပြုမိန့်ထုတ်ပေးပြီး ရင်းနှီးမြှုပ်နှံမှု လုပ်ငန်း၏ အဆိုပြုချက်စာအုပ်များပေးပို့ခြင်း**

၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အောက်ဖော်ပြပါ လုပ်ငန်း(၅)ခုကို ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်-

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်း | ခွင့်ပြုမိန့် အမှတ်နှင့် နေ့စွဲ |
|---|---|---|---|
| (က) | Amata International Co., Ltd. | နိုင်ငံတကာ အဆင့်မီ Diving Resort Hotel & Dive Recreation Centre လုပ်ငန်း | ၁၁၃၅/ ၂၀၁၆<br>၂၀-၃-၂၀၁၆ |
| (ခ) | Myanmar National Airlines Co., Ltd. | ပြည်တွင်း၊ ပြည်ပ လေကြောင်း သယ်ယူပို့ဆောင်ရေးလုပ်ငန်း | ၁၁၄၂/ ၂၀၁၆<br>၁၆-၃-၂၀၁၆ |
| (ဂ) | Oriental Highway Co., Ltd. | BOT စနစ်ဖြင့် လမ်း-တံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း | ၁၁၇၈/ ၂၀၁၆<br>၂၆-၃-၂၀၁၆ |
| (ဃ) | Max Highway Co., Ltd. | BOTစနစ်ဖြင့် လမ်းအဆင့်မြှင့်တင် တိုးချဲ့တည်ဆောက်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း | ၁၁၇၉/ ၂၀၁၆<br>၂၆-၃-၂၀၁၆ |
| (င) | Axiom Mandalay Co., Ltd. | BOT စနစ်ဖြင့် မန္တလေး-ပြင်ဦးလွင် လမ်းသစ် ၂၂မိုင်ဖောက်လုပ်ခြင်းနှင့် လမ်း-တံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း | ၁၁၈၀/ ၂၀၁၆<br>၂၆-၃-၂၀၁၆ |

၂။ အဆိုပါ ကုမ္ပဏီမှ တင်သွင်းမည့် စက်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ စိစစ်ရာတွင် ရည်ညွှန်းအသုံးပြုနိုင်ပါရန် ကုမ္ပဏီ၏ အဆိုပြုချက် စာအုပ် ၁ အုပ်စီကို ဤစာနှင့် အတူ ပူးတွဲပေးပို့အပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(မြစန္ဒာ၊ ညွှန်ကြားရေးမှူး)

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး၊ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး၊ စိုက်ပျိုးမွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
ရုံးလက်ခံ/မျှောစာတွဲ

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ်(သို့မဟုတ်)စာကြမ်းရေးရန်

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဧပြီလ ၂၅ ရက်

အကြောင်းအရာ။ **ကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးပြီး Amata International Co., Ltd.၊ Myanmar National Airlines Co., Ltd.၊ Oriental Highway Co., Ltd.၊ Max Highway Co., Ltd.၊ Axiom Mandalay Co., Ltd.၏ အဆိုပြုချက် စာအုပ်များအား သက်ဆိုင်ရာဌာနများသို့ ပေးပို့ ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနသို့ ပေးပို့မည့် (စာချော)တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

| | ရေးသွင်းသူ | စိစစ်သူ | အတည်ပြုသူ |
|---|---|---|---|
| လက်မှတ် | (လက်မှတ်) 25/4/16 | (လက်မှတ်) 25.4.2016 | (လက်မှတ်) |
| အမည် | အေးမွန်စိုး | လွဲ့လွဲ့အောင် | မင်းလွင်ဆွေ |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၂။ [illegible]

(လက်မှတ်)
(ခင်သက်မော်)
ဒုတိယညွှန်ကြားရေးမှူး

ညွှန်ကြားရေးမှူး
[illegible]

[illegible]
[illegible]

ရှမ်းပြည်နယ်

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့် ရရှိထားသော လုပ်ငန်းများ

| စဉ် | ကုမ္ပဏီ အမည် | လုပ်ငန်းအမျိုး အစား | တည်နေရာ | US$ သန်း | ကျပ်သန်း | ခွင့်ပြုမိန့် အမှတ်/ရက်စွဲ |
|---|---|---|---|---|---|---|
| ၁ | အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက် | လားရှိုး - မူဆယ်ကား လမ်းအား ပြုပြင်ဖောက်လုပ် တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း | မန္တလေး - လားရှိုး - မူဆယ် ပြည်ထောင်စု လမ်းမကြီး (လားရှိုး-မူဆယ်လမ်း အပိုင်း) မိုင်တိုင် (၁၇၂/ ၀ မှ ၂၇၄/၃) အထိ ရှမ်းပြည်မြောက်ပိုင်း၊ | ၂၇.၀၀ | ၉၈၂.၀၀ | ၀၃၅/ ၉၆ (၂၂-၇-၁၉၉၆) |
| ၂ | ဒိုင်းမွန်ပဲ လေ့စ် ကုမ္ပဏီ လီမိတက် | မန္တလေး - လားရှိုး - မူဆယ် ပြည်ထောင်စု လမ်းမကြီး (နောင်ချို - လားရှိုးအပိုင်း) မိုင်တိုင်အမှတ် ၇၀/ ၀ မှ ၁၇၂/ ၀ ထိ၊ ရှမ်းပြည် (မြောက်ပိုင်း) | မန္တလေး - လားရှိုး - မူဆယ် ပြည်ထောင်စု လမ်းမကြီး (နောင်ချို - လားရှိုးအပိုင်း) မိုင်တိုင်အမှတ် ၇၀/ ၀ မှ ၁၇၂/ ၀ ထိ၊ ရှမ်းပြည် (မြောက်ပိုင်း) | ၈၀.၀၀ | ၁၂၈၀.၀၀ | ၀၃၆/ ၉၆ (၂၂-၇-၁၉၉၆) |
| ၃ | အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက် | နောင်ချို-လားရှိုး လမ်းအား တည်ဆောက် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း | မန္တလေး - လားရှိုး - မူဆယ် ပြည်ထောင်စု လမ်းမကြီး (နောင်ချို- လားရှိုးလမ်း အပိုင်း) မိုင်တိုင် (၇၉/ ၀ မှ ၁၂၃/၀) အထိ ရှမ်းပြည် မြောက်ပိုင်း၊ | ၂၃.၀၀ | ၁၂၃၈.၀၀ | ၁၅၂/ ၉၈ (၁၅-၇-၁၉၉၈) |
| ၄ | အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက် | သိန္နီ- ကွမ်းလုံ- ချင်းရွှေဟော် လမ်းအပိုင်း ပြုပြင်ဖောက်လုပ်၍ လမ်းတံတားအသုံး ပြုခများ ကောက် ခံခြင်းလုပ်ငန်း | သိန္နီ - ကွမ်းလုံ - ချင်းရွှေဟော် ဒေသ | ၂၁.၀၀ | ၁၂၇၆.၀၀ | ၂၅၃/ ၉၉ (၂၁-၅-၁၉၉၉) |

| | | | | | | |
|---|---|---|---|---|---|---|
| ၅ | အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက် | လားရှိုး - မူဆယ် ပြည်ထောင်စု လမ်းမကြီး၏ ဆက်စပ်လမ်း အပိုင်း များဖြစ်သော မိုင်းယု - ကြူကုတ်၊ မိုင်းယု - မူဆယ်နှင့် မူဆယ် - နမ့်ခမ်းလမ်းအပိုင်း တို့ကိုပြုပြင် ဖောက်လုပ် တည်ဆောက်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း | လားရှိုး - မူဆယ် ပြည်ထောင်စုလမ်းမကြီး နှင့် ဆက်စပ်လမ်း အပိုင်းဖြစ်သော မိုင်တိုင် ၀/၀ မှ ၁၂/ ၀ ထိ(ကျူကုတ်လမ်း အပိုင်း) (၁၂) မိုင်၊ မိုင်တိုင် ၁၇၄/၃ မှ ၂၈၄/၃ အထိ (မူဆယ်လမ်း အပိုင်း) (၁)မိုင်၊ မိုင်တိုင် (၂၈၄/၃ မှ ၃၀၆/၃ ထိ) နမ့်ခမ်း လမ်းအပိုင်း | ၁၀.၀၀ | ၆၆၀.၀၀ | ၃၆၇/ ၂၀၀၀ (၂၀-၄-၂၀၀၀) |
| ၆ | ဟုန်ပန်း ဆောက်လုပ် ရေး ကုမ္ပဏီ လီမိတက် | ကျိုင်းတုံ - တာချီလိတ်ကား လမ်းအား ပြုပြင်ဖောက်လုပ်၍ လမ်း အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း | မိတ္ထီလာ - တောင်ကြီး - လားရှိုး- တာချီလိတ် ပြည်ထောင်စု လမ်းမကြီး (ကျိုင်းတုံ - တာချီလိတ် လမ်း အပိုင်း) ရှမ်းပြည်နယ် အရှေ့ပိုင်း မိုင်တိုင် (၃၉၇/၄ မှ ၄၉၉/၆ ထိ) | ၃၀.၀၀ | ၃၁၈၀.၀၀ | ၄၀၂/ ၂၀၀၀ (၁၂-၇-၂၀၀၀) |
| ၇ | အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက် | မန္တလေး-ပြင်ဦးလွင်-ဝက်ဝံ- နောင် ချို လမ်းမကြီး (မိုင်တိုင်၈/၀မှ ၇၉/၀ ထိ)(၇၁)မိုင် ဖောက်လုပ်၍လမ်း အသုံးပြုခကောက်ခံ သည့် လုပ်ငန်း | မန္တလေး - ပြင်ဦးလွင် - ဝက်ဝံ- နောင်ချိုဒေသ | ၇.၅၀ | ၂၈၄၅.၀၀ | ၅၃၄/ ၂၀၀၂ (၁၂-၂-၂၀၀၂) |

| | | | | | | | |
|---|---|---|---|---|---|---|---|
| ၈ | အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက် | ကျောက်မဲ - လားရှိုးလမ်းအပိုင်း၊ [မိုင် တိုင် (၁၂၃/၀ မှ ၁၇၂/၀ ထိ) (၄၉) မိုင်] ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံး ပြုခ ကောက်ခံ ခြင်း လုပ်ငန်း | ကျောက်မဲ - လားရှိုးလမ်းအပိုင်း၊ [မိုင်တိုင် (၁၂၃/၀ မှ ၁၇၂/၀ ထိ) (၄၉)မိုင်] | ၁.၇၅ | ၆၇၈၃.၆၅ | ၆၉၂/ ၂၀၀၈ (၁၈-၉-၂၀၀၈) |
| ၉ | နေမင်းရောင် ဆောက် လုပ်ရေး ကုမ္ပဏီ လီမိတက် | BOT စနစ်ဖြင့် လမ်းပြုပြင်ဖောက် လုပ်၍ လမ်းတံတား အသုံးပြုခ များ ကောက်ခံခြင်း (တောင်ကြီး- လွိုင်လင်-နမ့်စန် လမ်းပိုင်း ၇၃ မိုင်) | တောင်ကြီး-လွိုင်လင်- နမ့်စန်း လမ်းအပိုင်း (၇၃)မိုင် | - | ၆၁၄၅.၃၈ | ၈၀၇/၂၀၁၁ (၂၂-၇-၂၀၁၁) |

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ်(သို့မဟုတ်)စာကြမ်းရေးရန်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ် လ ၇ ရက်

အကြောင်းအရာ။ **Oriental Highway Co., Ltd.မှ BOTစနစ်ဖြင့် လားရှိုးမြို့ ရှောင်လမ်းသစ်(၁၅)မိုင် (၄)ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ Oriental Highway Co., Ltd.မှ BOTစနစ်ဖြင့် လားရှိုးမြို့ရှောင်လမ်းသစ်(၁၅)မိုင်(၄) ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမောင်ကျေးမှ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့်အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉/၂၀၁၆) အစည်းအဝေးသို့ တင်ပြမည့် **အမှာစာ (စာကြမ်း)**အား ပြုစုတင်ပြအပ်ပါသည်။

| | ရေးသွင်းသူ | စိစစ်သူ | ကြီးကြပ်သူ |
|---|---|---|---|
| လက်မှတ် | [signature] 7/3/16 | [signature] 7/3/16 | [signature] 7/3/16 |
| အမည် | အေးမွန်စိုး | နှင်းဖြူထွေး | မင်းလွင်ဆွေ |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၃။ MIC 9/2016 သို့ [illegible]

[signature]
(ခင်သက်မော်)
ဒုတိယညွှန်ကြားရေးမှူး

ညွှန်ကြားရေးမှူး

၄။ MIC [illegible]

[signature]

[illegible]

၅။ MIC [illegible]

[signature]

[illegible]

Nothern- Ns



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၁၅ / ဌာနခွဲ - ၃ / ၂၀၁၆(စီ ၂၈၂)
ရက် စွဲ၊ ၂၀၁၆ခုနှစ် ဇန်နဝါရီလ ၂၂ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Oriental Highway Co.,Ltd.မှ B.O.T စနစ်ဖြင့် ဆောင်ရွက်လျက်ရှိသော လားရှိုးမြို့ရှောင်လမ်း (၁၅) မိုင် (၄) ဖာလုံအတွက် လုပ်ငန်းလုပ်ကိုင်ခွင့် အဆိုပြုလွှာတင်ပြခြင်း**

၁။ ရှမ်းပြည်နယ်(မြောက်ပိုင်း)အတွင်းရှိ လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံအား ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဒုတိယသမ္မတ ဒေါက်တာစိုင်းမောက်ခမ်း၏ ခရီးစဉ် လမ်းညွှန်ချက်အရ Oriental Highway Co.,Ltd. မှ ဖောက်လုပ်ခဲ့ပြီး ဆောက်လုပ်ရေးဝန်ကြီး ဌာနမှ မူလ B.O.T လမ်းပိုင်းဖြစ်သည့် မန္တလေး - လားရှိုး - မူဆယ် ပြည်ထောင်စုလမ်းမကြီးနှင့် ဆက်စပ်နေသည့်အတွက် B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုခဲ့ပါသည်။ အဆိုပါလမ်း၏ အဆိုပြုလွှာအား ကုမ္ပဏီမှ တင်ပြလာခြင်းအပေါ် လမ်းဦးစီးဌာနမှ စိစစ်၍ ပဋိညာဉ်စာချုပ်ပါ အချက်များအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အတူ ပြင်ဆင်ပြုစုပြီး ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ Oriental Highway Co.,Ltd. မှ B.O.T စနစ်ဖြင့် ဆောင်ရွက်လျက် ရှိသော လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံ၏ အဆိုပြုလွှာအား မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့ ဆက်လက်တင်ပြနိုင်ရေးအတွက် ကုမ္ပဏီမှ တင်ပြလာသည့် အဆိုပြုလွှာ (၁)စုံ၊ ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ ပြန်ကြားလာသည့် စာမိတ္တူ (၁) စုံ တို့နှင့်အတူ ပူးတွဲပေးပို့အပ်ပါသည်။

ကျော်လွင်
ပြည်ထောင်စုဝန်ကြီး

မိတ္တူကို
- ညွှန်ကြားရေးမှူးချုပ်၊ လမ်းဦးစီးဌာန ။

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၈ ရက်

အကြောင်းအရာ။ **Oriental Highway Company Limited မှ BOTစနစ်ဖြင့် လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင်(၄)ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြလာခြင်းအား ခွင့်ပြုမိန့်ထုတ်ပေးရန်ကိစ္စ**

၁။ Oriental Highway Company Limited မှ BOTစနစ်ဖြင့် လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင်(၄) ဖာလုံရှိလမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမောင်ကျေး မှ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား၂၀၁၆ ခုနှစ် မတ်လ ၂၅ ရက်နေ့တွင် ကျင်းပမည့် ကော်မရှင်၏ (၁၁/၂၀၁၅) အစည်းအဝေးသို့ တင်ပြပါသည်။

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၉)၊ ပုဒ်မ ၁၈(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Oriental Highway Company Limited မှ လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင်(၄) ဖာလုံရှိ လမ်းအပိုင်းအား လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် ရင်းနှီးမြှုပ်နှံသူသို့ ထုတ်ပေးမည့် **ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ (စာချော)** တို့အား ဥက္ကဋ္ဌ မှ လက်မှတ်ရေးထိုး ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

(အောင်နိုင်ဦး)
အတွင်းရေးမှူး

**ဥက္ကဋ္ဌ**

၃။

M3-448
11/3

(11)

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၉ ရက်

PL.375
11/3/16

အကြောင်းအရာ။ **Oriental Highway Co., Ltd.မှ BOTစနစ်ဖြင့် လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅)မိုင်(၄)ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြလာခြင်းအား ဥပဒေရှုထောင့်မှ စိစစ်သုံးသပ်ပေးပါရန် တင်ပြခြင်းကိစ္စ**

၁။ Oriental Highway Co., Ltd. မှ BOTစနစ်ဖြင့် လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင်(၄) ဖာလုံရှိလမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမောင်ကျေး မှ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ် မတ်လ ၁၁ ရက်နေ့တွင် ကျင်းပမည့် ကော်မရှင်၏ (၉/၂၀၁၅) အစည်းအဝေးသို့ တင်ပြမည် ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၉)၊ ပုဒ်မ ၁၈(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Oriental Highway Co., Ltd.မှ လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင်(၄) ဖာလုံရှိ လမ်းအပိုင်းအား လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် ထုတ်ပေးမည့် **ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ (စာကြမ်း)** တို့အား ဥပဒေရှုထောင့်မှစိစစ် သုံးသပ်ပေးပါရန် ပြုစုတင်ပြအပ်ပါသည်။

| | ရေးသွင်းသူ | စိစစ်သူ | ကြီးကြပ်သူ |
|---|---|---|---|
| လက်မှတ် | (signature) 9/3/16 | (signature) 9/3/16 | (signature) 10/3 |
| အမည် | အေးမွန်စိုး | နှင်းဖြူထွေး | မင်းလွင်ဆွေ |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၁၀-၃-၁၆ ၃။ pl သို့ ဥပဒေရှုထောင့်မှ စိစစ် [illegible] [illegible] တင်ပြအပ်ပါသည်။

(ခင်သက်မော်)
ဒုတိယညွှန်ကြားရေးမှူး

ညွှန်ကြားရေးမှူး (PL)

-၃-၁၆ ၄။ Oriental Highway Co., Ltd. [illegible] [illegible] တင်ပြအပ်ပါသည်။

(signature) 11/3/16

Oriental Ns INV-3

(14) ၁၁/၁၈၊ ၅၁၆

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် 　　　　ပုံစံ (မနသ-၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၀၆၆ / ၂၀၁၆ ။ 　　　　၂၀၁၆ ခုနှစ်၊ မတ် လ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** 　ဦးမောင်ကျေး(ခ) တီကာကွေး

(ခ) **အဘ အမည်** 　ဦးခင်ငါး(ခ) ဦးခင်ရှိန်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင် အမှတ်** 　၁၂/လသန(နိုင်) ၀၁၈၀၇၄

(ဃ) **နေရပ်လိပ်စာ** 　အမှတ်-(စီ-၄)၊ မွန်မြတ်မေတ္တာလုံးခြင်းအိမ်ရာ၊ ပင်ရွှေညောင်လမ်း၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** 　Oriental Highway Company Limited. (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** 　BOT စနစ်ဖြင့် လမ်း-တံတားပြုပြင်ဖောက်လုပ်၍ လမ်း-တံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** 　မန္တလေး-လားရှိုး-မူဆယ်ပြည်ထောင်စုလမ်းမကြီး၏ မိုင်တိုင်၁၆၉/၀မှ ၁၈၃/၂ကြားရှိ လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံ

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** 　၂၀၇၆၁.၉၉ သန်း(အမေရိကန်ဒေါ်လာ ၀.၈၄ သန်းခန့် အပါအဝင် စုစုပေါင်းကျပ် နှစ်သောင်းခုနှစ်ရာခြောက်ဆယ့်တစ်သန်းနှင့် ကိုးသိန်းကိုးသောင်းခန့်)

(ဈ) **တည်ဆောက်မှုကာလ** 　၂ နှစ် ၂လ ~~(၁၇-၁၀-၂၀၁၂) မှ (၂၄-၁၂-၂၀၁၄) ထိ~~ ?

(ည) **ရင်းနှီးမြှုပ်နှံခွင့်ပြုသည့်သက်တမ်း** 　၄၅ နှစ်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ /၂၀၁၆(မနသ)

၂၀၁၆ ခုနှစ် မတ် လ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Oriental Highway Co., Ltd. (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီလီမိတက်)မှ လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံရှိ လမ်းအပိုင်းအား BOTစနစ်ဖြင့် လမ်း-တံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြု တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ် မတ်လ ၂၅ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁/၂၀၁၆) အစည်းအဝေး၌ တင်ပြခဲ့ရာ "လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံအား BOT စနစ်ဖြင့် လမ်း-တံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုကြောင်း" ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Oriental Highway Co., Ltd. (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီလီမိတက်) မှ BOT စနစ်ဖြင့် လမ်း-တံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၀၆၆/၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၂။ Oriental Highway Co., Ltd. (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန် လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသော အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန် တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

16

တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်းကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေးစံချိန်စံညွှန်းများ၊ ဈေးနှုန်းများသင့်မြတ်မှုစသည်တို့နှင့်စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ**အဖြစ် ထားရှိဆောင်ရွက် အကောင် အထည်ဖော်ရမည်။

၅။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်)သည် လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံရှိ လမ်းအပိုင်းအား BOTစနစ်ဖြင့် လမ်းတံတား ဖောက်လုပ်၍ လမ်း-တံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင်

ဆောက်လုပ်ရေးဝန်ကြီးဌာန၊ လမ်းဦးစီးဌာန နှင့် ချုပ်ဆိုမည့်ဖောက်လုပ်ပြုပြင် အဆင့်မြှင့်တင်ခြင်း၊ လုပ်ငန်းလုပ်ကိုင်ခြင်းနှင့် လွှဲပြောင်းပေးခြင်း (Build Operate And Transfer) ပဋိညာဉ်စာချုပ်ပါ သတ်မှတ်ချက် စည်းမျဉ်း စည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ လမ်းဦးစီးဌာနနှင့် Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေးကုမ္ပဏီလီမိတက်) တို့ လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅)မိုင်(၄)ဖာလုံအား BOT စနစ်ဖြင့် လမ်း-တံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၈။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်) သည် လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံအား လမ်း-တံတားအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းသက်တမ်းမှာ ကနဦး(၄၅)နှစ် နှင့် ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် နောက်ထပ် (၁၀)နှစ် (၁)ကြိမ် သက်တမ်း တိုးမြှင့်နိုင်သည်။ သက်တမ်းကို ရေတွက်ရာတွင် ပဋိညာဉ် စာချုပ် အပိုဒ် ၂ ပါ လုပ်ငန်းများကို အပြီးဆောင်ရွက်ပြီးစီးသည့် နေ့ရက်(သို့မဟုတ်) လုပ်ငန်းကာလ(၃)နှစ် ထက်စော၍ လုပ်ငန်းပြီးစီးကြောင်း လက်မှတ်ရေးထိုးပေးသည့်နေ့ (Final Completion Date) ထိုနှစ်ရပ် အနက် စောရာနေ့ရက်ကာလမှ စတင်သတ်မှတ်ရမည်။

၉။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်) သည် ကောက်ခံရရှိသည့်လမ်းအသုံးပြုခမှ“လမ်းဦးစီးဌာနသို့”အောက်ပါအတိုင်း ပေးသွင်းရမည်-

| | | |
|---|---|---|
| (က) | ပထမ(၅)နှစ်အတွက် | ကင်းလွတ်ခွင့်ကာလ |
| (ခ) | (၆)နှစ်မြောက်မှ (၁၅)နှစ်မြောက်အထိ(၁၀)နှစ် | ၅% |
| (ဂ) | (၁၆)နှစ်မြောက်မှ (၂၅)နှစ်မြောက်အထိ(၁၀)နှစ် | ၁၀% |
| (ဃ) | (၂၆)နှစ်မြောက်မှ (၃၅)နှစ်မြောက်အထိ(၁၀)နှစ် | ၁၅% |
| (င) | (၃၆)နှစ်မြောက်မှ (၄၅)နှစ်မြောက်အထိ(၁၀)နှစ် | ၂၀% |

(စ) ၄၅ နှစ်ကျော် ကာလအတွက် အချိန်တိုးမြှင့် ကောက်ခံခွင့် တင်ပြချိန်တွင် နိုင်ငံတော်မှ သတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်းပေးသွင်းရန်ဖြစ်သည်။

၁၀။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်) သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသည့်ကာလ (၄၅)နှစ် သို့မဟုတ် လုပ်ငန်းဆက်လက်လုပ်ကိုင်ရန် နောက်ထပ် တိုးမြှင့်ကာလများပြီးဆုံးပါက အဆိုပါလမ်းနှင့် ဂိတ်များကို ဖောက်လုပ် ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထားအတိုင်း လမ်းဦးစီးဌာနသို့ အဖိုးစားနား တစ်စုံတစ်ရာ မရှိဘဲ လွှဲပြောင်းပေးရမည်။

၁၁။ Oriental Highway Company Limited (အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် နိုင်ငံခြားသား ကျွမ်းကျင်သူများ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇
☎ - ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/မ- ၁၅၂၂ / ၂၀၁၆( ၃၂၈ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁ ရက်

အကြောင်းအရာ ။ **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင် တင်ပြရန်ကိစ္စ**

ရည်ညွှန်းချက် ။ (၁) ဆောက်လုပ်ရေး ဝန်ကြီးဌာန၏ (၂၂-၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၁၅/ ဌာနခွဲ-၃/၂၀၁၆(စီ၂၈၂)

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂-၂-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရက- ၄/မ-၁၅၂၂ / ၂၀၁၆ (၀၄၉)

(၃) ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၏ (၂၂-၂-၂၀၁၆) ရက်စွဲပါ စာအမှတ် ၀၀၁/ MIC(OSS)/ECD/ ၀၁ (၅၁/၁၆)

၁။ Oriental Highway Co., Ltd.မှ BOTစနစ်ဖြင့် လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅)မိုင် (၄) ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် ရည်ညွှန်း(၁)ပါစာဖြင့် အဆိုပြုချက် တင်ပြလာခြင်းအား ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနသို့ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဥ်များနှင့် စပ်လျဥ်း၍ ရည်ညွှန်း(၂)ပါစာဖြင့် သဘောထား တောင်းခံခဲ့ပါသည်။

၂။ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းအပေါ် ရည်ညွှန်း(၃)ပါစာဖြင့် အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထား ပြန်ကြားလာပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက် ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility- CSR) အတွက် နှစ်စဥ်အမြတ်ငွေ၏ (၁%)ကို အသုံးပြုခြင်းတို့ အပါ အဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း(Initial

Environmental Examination-IEE)ကို ဆောင်ရွက်ပြီး အစီရင်ခံစာရေးဆွဲ တင်ပြရန်။

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးစေရေးအတွက် ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ်(Environmental Management Plan- EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

၃။ သို့ဖြစ်ပါ၍ အထက်စာပိုဒ်(၂)ပါ အချက်များအား သိရှိနိုင်ပါရန်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ဆောင်ရွက်မည့် အစီအစဉ်များအား ကော်မရှင်သို့ ပြန်လည် တင်ပြပေးရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

Oriental Highway Co., Ltd.

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး
ဆောက်လုပ်ရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန
One Stop Service အဖွဲ့
ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန
ရုံးလက်ခံ/ မျှောစာတွဲ

20

Mg-390
1/3

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဥ်းချုပ်(သို့မဟုတ်)စာကြမ်းရေးရန်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၉ ရက်

အကြောင်းအရာ။ **ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြ ရန်ကိစ္စ**

၁။ Oriental Highway Co., Ltd.မှ BOTစနစ်ဖြင့် လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅)မိုင် (၄) ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကို ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနသို့ သဘောထား တောင်းခံခဲ့ပါသည်။ အလံ "၁" အလံ "၂"

၂။ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်း အပေါ် အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါ ကြောင်း သဘောထား ပြန်ကြားလာပါသည်- အလံ "၃"

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက် ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်း ကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility- CSR) အတွက် နှစ်စဥ်အမြတ်ငွေ၏ (၁%)ကို အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင် အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း(Initial Environmental Examination-IEE)ကို ဆောင်ရွက်ပြီး အစီရင်ခံစာရေးဆွဲ တင်ပြရန်။

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေးသို့မဟုတ် ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင် ရွက်မည့် အစီအစဥ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီ အစဥ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဥ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါး စေရေးအတွက် ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည် တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဥ် (Environmental Management Plan- EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင် အထည်ဖော် ဆောင်ရွက်ရန်။

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ်(သို့မဟုတ်)စာကြမ်းရေးရန်

၃။ သို့ဖြစ်ပါ၍ Oriental Highway Co., Ltd.မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားနှင့်အညီရေးဆွဲပြုစု၍ တင်ပြရန်အကြောင်းကြား မည့် **စာချော**တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

[illegible] 29/12/16

| | ရေးသွင်းသူ | စိစစ်သူ | အတည်ပြုသူ |
|---|---|---|---|
| လက်မှတ် | [signature] 29/12/16 | [signature] 29/12/16 | [signature] 29/12/16 |
| အမည် | အေးမွန်စိုး | နှင်းဖြူထွေး | မင်းလွင်ဆွေ |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

[illegible] ၄။ Oriental Highway [illegible]

[signature]
(ခင်သက်မော်)
ဒုတိယညွှန်ကြားရေးမှူး

ညွှန်ကြားရေးမှူး

[illegible] ၅။ [illegible]

[signature] [illegible] (ဖြူနှင်း)

[illegible]

[illegible]

[illegible]

[illegible]

[illegible] (ဖြူနှင်း)

DAMS [illegible]




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်)-၀၁-၆၅၈၁၃၇
☎ - ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/မ- ၁၅၂၂ /၂၀၁၆( ၁၄၉ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂ ရက်

သို့

အဖွဲ့ခေါင်းဆောင်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
One Stop Service အဖွဲ့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ ဆောက်လုပ်ရေး ဝန်ကြီးဌာန၏ (၂၂-၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၁၅/ ဌာနခွဲ-၃/၂၀၁၆(စီ၂၈၂)

၁။ Oriental Highway Co., Ltd.မှ BOTစနစ်ဖြင့် လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅)မိုင် (၄) ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူ ရန် လိုအပ်ပါသည်။

၃။ အဆိုပြုချက်ပါ လုပ်ငန်းဆောင်ရွက်မည့် နေရာတွင် သဘာဝ ပတ်ဝန်းကျင် ထိခိုက်မှု ရှိ-မရှိ နှင့် လုပ်ငန်းဆောင်ရွက်ရန် သင့်-မသင့် စသည့်အချက်များအပေါ် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန်နှင့် အဆိုပြု လုပ်ငန်းနှင့် စပ်လျဉ်း၍ ဦးသန်းမြင့် ဖုန်းနံပါတ် ၀၉-၆၇၀၆၁၀၅ သို့ ဆက်သွယ် ဆောင်ရွက်နိုင်ပါရန် အဆိုပြုချက်(တစ်)စောင် ပူးတွဲ ပေးပို့လျက် ညှိနှိုင်း မေတ္တာရပ် ခံအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(ဆန်းမြင့်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

Oriental (forest) INV-3.com

ပြည်ထောင်စုဝန်ကြီးရုံး
ဆောက်လုပ်ရေး ဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
လမ်းဦးစီးဌာန

Oriental Highway Co., Ltd.
ရုံးလက်ခံ / မျှောစာတွဲ

# မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ငှားရမ်းဆောင်ရွက်မည့် မြေဆိုင်ရာ အချက်အလက်များ

| စဉ် | PAT အကြိမ်/ ရက်စွဲ | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား/ တည်နေရာ | စုစုပေါင်းမြေ အကျယ်အဝန်း | အဆောက်အဦ အကျယ်အဝန်း | နှစ်စဉ် ငှားရမ်းခ/နှုန်း (Sqm) ကျပ်/US$) | ငှားရမ်းမည့်နှစ် | မြေဂရန်ခွင့်ပြုမှု | | | သဘောထားများ |
|---|---|---|---|---|---|---|---|---|---|---|---|
| | | | | | | | | အမည် | ခွင့်ပြုရက်စွဲ | ခွင့်ပြုကာလ (နှစ်) | |
| ၁ | ၅/၂၀၁၆ (၁-၂-၂၀၁၆) | Oriental Highway Co., Ltd. | BOTစနစ်ဖြင့် လားရှိုးမြို့ ရှောင်လမ်း (၁၅)မိုင် (၄)ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း | လားရှိုးမြို့ ရှောင်လမ်း (၁၅)မိုင် (၄)ဖာလုံ | - | - | ၄၅နှစ် | - | - | ၄၅နှစ် | (၁)ရှမ်းပြည်နယ်အစိုးရအဖွဲ့ (၂)ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန |

ဆောက်လုပ်ရေးဝန်ကြီးဌာန၊ လမ်းဦးစီးဌာနမှ ပိုင်ဆိုင်သောလမ်းမြေဖြစ်ပါသည်။

(ခင်သက်မော်)
ဒုတိယညွှန်ကြားရေးမှူး





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၀၃၇

☎ ၀၁-၆၅၈၁၂၉


စာအမှတ်၊ရက-၄/မ- ၁၅၂၂ / ၂၀၁၆( ၂၉၅-၁ )

ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၄ ရက်

သို့

**ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) ဆောက်လုပ်ရေး ဝန်ကြီးဌာန၏ (၂၂-၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၁၅/ ဌာနခွဲ-၃/ ၂၀၁၆(စီ ၂၈၂)

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး၏ (၂-၂-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရက-၄/မ- ၁၅၂၂/ ၂၀၁၆(၀၅၀)

၁။ Oriental Highway Co., Ltd. မှ BOTစနစ်ဖြင့် လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅)မိုင် (၄) ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီး ဌာနမှတစ်ဆင့် ရည်ညွှန်း(၁)ပါစာဖြင့် အဆိုပြုချက် တင်ပြလာခြင်းအား ရှမ်းပြည်နယ် အစိုးရအဖွဲ့ ရုံးသို့ ရည်ညွှန်း(၂)ပါစာဖြင့် သဘောထားတောင်းခံခဲ့ပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၈(ခ)အရ အဆိုပြုချက်အား လက်ခံပါက ရက်ပေါင်း(၉၀)အတွင်း ဆောင်ရွက်ပေးရမည် ဖြစ်ပါ သည်။

၃။ သို့ဖြစ်ပါ၍ ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံးမှ ယနေ့တိုင် သဘောထား ပြန်ကြားလာခြင်း မရှိသေးပါသဖြင့် သဘောထားမှတ်ချက်အား **ဆောလျင်စွာ** ပြန်ကြားပေးပါရန် ထပ်မံညှိနှိုင်း မေတ္တာ ရပ်ခံအပ်ပါသည်။

ဥက္ကဌ(ကိုယ်စား)

(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်

လမ်းဦးစီးဌာန

Oriental Highway Co., Ltd.

ရုံးလက်ခံ/ မျှောစာတွဲ

26

DDG 494 24/2/16

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ်(သို့မဟုတ်)စာကြမ်းရေးရန်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၄ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

Mg-356 24/2

၁။ Oriental Highway Co., Ltd.မှ BOTစနစ်ဖြင့် လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅) မိုင်(၄)ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ရှမ်းပြည်နယ်အစိုးရအဖွဲ့သို့ (၂-၂-၂၀၁၆) ရက်စွဲဖြင့် သဘောထား တောင်းခံခဲ့ပါသည်။

၂။ သို့ရာတွင် ရှမ်းပြည်နယ် အစိုးရအဖွဲ့မှ ယနေ့တိုင် သဘောထား ပြန်ကြားလာခြင်း မရှိသေးပါသဖြင့် ထပ်မံ၍ နှိုးဆော်စာ ထုတ်ပြန်မည့် **စာချော**တွင် လက်မှတ်ရေးထိုး ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

| | ရေးသွင်းသူ | စိစစ်သူ | ကြီးကြပ်သူ |
|---|---|---|---|
| လက်မှတ် | (signature) 24/2/16 | (signature) 24/2/16 | (signature) 24/2/16 |
| အမည် | အေးမွန်စိုး | နှင်းဖြူထွေး | မင်းလွင်ဆွေ |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

24-2-16 ၃။ [illegible]

(ခင်သိက်မော်)
ဒုတိယညွှန်ကြားရေးမှူး

ညွှန်ကြားရေးမှူး

-2-16 ၄။ ရှမ်းပြည်နယ် အစိုးရအဖွဲ့ထံ သဘောထားမှတ်ချက် ထပ်မံ တောင်းခံမည့် အကြောင်းအရာကို စာချောဖြင့် လက်မှတ်ရေးထိုးပေးရန် တင်ပြအပ်ပါသည်။

(signature) 24/2
(ဖြူဖြူ)

ဒုညွှန်ချုပ်

၅။ [illegible]

[illegible]

(signature) 24/2

[illegible]




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၁၅ / ဌာနခွဲ - ၃ / ၂၀၁၆(စီ ၂၈၂)
ရက် စွဲ၊ ၂၀၁၆ခုနှစ် ဇန်နဝါရီလ ၁၁ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Oriental Highway Co.,Ltd.မှ B.O.T စနစ်ဖြင့် ဆောင်ရွက်လျက်ရှိသော လားရှိုးမြို့ရှောင်လမ်း (၁၅) မိုင် (၄) ဖာလုံအတွက် လုပ်ငန်းလုပ်ကိုင်ခွင့် အဆိုပြုလွှာတင်ပြခြင်း**

၁။ ရှမ်းပြည်နယ်(မြောက်ပိုင်း)အတွင်းရှိ လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံအား ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဒုတိယသမ္မတ ဒေါက်တာစိုင်းမောက်ခမ်း၏ ခရီးစဉ် လမ်းညွှန်ချက်အရ Oriental Highway Co.,Ltd. မှ ဖောက်လုပ်ခဲ့ပြီး ဆောက်လုပ်ရေးဝန်ကြီး ဌာနမှ မူလ B.O.T လမ်းပိုင်းဖြစ်သည့် မန္တလေး - လားရှိုး - မူဆယ် ပြည်ထောင်စုလမ်းမကြီးနှင့် ဆက်စပ်နေသည့်အတွက် B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုခဲ့ပါသည်။ အဆိုပါလမ်း၏ အဆိုပြုလွှာအား ကုမ္ပဏီမှ တင်ပြလာခြင်းအပေါ် လမ်းဦးစီးဌာနမှ စိစစ်၍ ပဋိညာဉ်စာချုပ်ပါ အချက်များအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အတူ ပြင်ဆင်ပြုစုပြီး ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ Oriental Highway Co.,Ltd. မှ B.O.T စနစ်ဖြင့် ဆောင်ရွက်လျက် ရှိသော လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံ၏ အဆိုပြုလွှာအား မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့ ဆက်လက်တင်ပြနိုင်ရေးအတွက် ကုမ္ပဏီမှ တင်ပြလာသည့် အဆိုပြုလွှာ (၁)စုံ၊ ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ ပြန်ကြားလာသည့် စာမိတ္တူ (၁) စုံ တို့နှင့်အတူ ပူးတွဲပေးပို့အပ်ပါသည်။

၁၁/၁/၁၆

ကျော်လွင်
ပြည်ထောင်စုဝန်ကြီး

မိတ္တူကို
- ညွှန်ကြားရေးမှူးချုပ်၊ လမ်းဦးစီးဌာန ။

(28)




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့
ဖက်(စ်) ၀၁-၆၅၈၁၃၃၇
☎ ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/မ- ၁၅၂၂ / ၂၀၁၆( )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီ လ ၂ ရက်

သို့

ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ (၁) နိုင်ငံတော်သမ္မတရုံး၏ (၂၀-၄-၂၀၁၁) ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ်၊ ၃၃/၂၀၁၁

(၂) ဆောက်လုပ်ရေး ဝန်ကြီးဌာန၏ (၂၂-၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၁၅/ ဌာနခွဲ-၃/၂၀၁၆(စီ၂၈၂)

၁။ Oriental Highway Co., Ltd.မှ BOTစနစ်ဖြင့် လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅)မိုင် (၄) ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့်ရည်ညွှန်း(၂)ပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်ဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရတို့၏ ထောက်ခံချက်ကို အထူးအလေးထားစဉ်းစားပါသဖြင့် ဝန်ကြီးချုပ် ကိုယ်တိုင်စိစစ် လက်မှတ်ရေးထိုးပြီး ထောက်ခံပေးပါရန် နိုင်ငံတော် သမ္မတရုံး၏ ရည်ညွှန်းချက်(၁)ပါ စာပိုဒ် ၃(စ) တွင် ဖော်ပြထားပါသည်။

၄။ ကော်မရှင်အနေဖြင့် လုပ်ငန်းအဆိုပြုလွှာများကို အမြန်ဆုံး စိစစ်ပေးရန် သမ္မတရုံးမှ ညွှန်ကြားထားပါသဖြင့် ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ အောက်ဖော်ပြပါ သဘောထား မှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန်နှင့် အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ဦးသန်းမြင့် ဖုန်းနံပါတ် ၀၉-၆၇၀၆၁၀၅ သို့ ဆက်သွယ် ဆောင်ရွက်နိုင်ပါရန် အဆိုပြုချက် တစ်စောင်အား ပူးတွဲ ပေးပို့လျက် ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြ စီမံကိန်းကို ထိခိုက်ခြင်း ရှိ/မရှိ။

(29)

(ခ) မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်/မဖြစ်။

(ဂ) ဖော်ပြပါ မြေနေရာတွင် လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/မရှိ။

(ဃ) ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သုံးသပ် အကြံပြုချက်။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး
ဆောက်လုပ်ရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်
လမ်းဦးစီးဌာန
Oriental Highway Co., Ltd.
ရုံးလက်ခံ / မျှောစာတွဲ

(30)




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## အဆိုပြုချက်စိစစ်ရေးအဖွဲ့

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့
ဖက်(စ်) ၀၁-၆၅၈၁၃၇
☎ ၀၁-၆၅၈၁၂၉

စာအမှတ်၊ရက-၄/ မ-၁၅၂၂ / ၂၀၁၆( ၁၉၉.က )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၅ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
ဆောက်လုပ်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **Oriental Highway Co., Ltd.မှ BOTစနစ်ဖြင့် လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ ဆောက်လုပ်ရေး ဝန်ကြီးဌာန၏ (၂၂-၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၁၅/ ဌာနခွဲ-၃/၂၀၁၆(စီ၂၈၂)

၁။ Oriental Highway Co., Ltd.မှ BOTစနစ်ဖြင့် လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင်(၄) ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ ယင်းအဆိုပြုချက်နှင့်စပ်လျဉ်း၍ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၅/၂၀၁၆ အစည်းအဝေးတွင် ဆွေးနွေးချက်နှင့် ဆုံးဖြတ်ချက်တို့အရ ကုမ္ပဏီမှ အောက်ပါအချက်များအား ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် ပြန်လည် တင်ပြပေး ပါရန် အကြောင်းကြားအပ်ပါသည် -

(က) ပြည်ပမှ တင်သွင်းမည့် ပစ္စည်းစာရင်းတွင် တည်ဆောက်ရေး လုပ်ငန်းသုံးပစ္စည်း များအား စိစစ်တင်ပြရန်။

(ခ) မနသပုံစံ-၁ နှင့် BOT စာချုပ်တွင် ဖော်ပြထားသော တည်ဆောက်ရေးကာလ နှင့် ပတ်သက်၍ ရှင်းလင်းချက် တင်ပြရန်။

၃။ သို့ဖြစ်ပါ၍ စာပိုဒ်(၂)ပါ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အားသိရှိနိုင်ပါရန် နှင့် ကုမ္ပဏီမှ ပြန်လည်တင်ပြရန်အချက်များအား ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် ကော်မရှင်သို့ ပြန်လည်တင်ပြပါရန် အကြောင်းကြားအပ်ပါသည်။

၁-၂-၁၆

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(ဆန်းမြင့်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
လမ်းဦးစီးဌာန

Oriental -PAT Rep

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ်(သို့မဟုတ်)စာကြမ်းရေးရန်

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၈ ရက်

အကြောင်းအရာ။ **အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၅/၂၀၁၆) အစည်းအဝေးဆုံးဖြတ်ချက်အား အကြောင်းကြားခြင်းကိစ္စ**

၁။ Oriental Highway Co., Ltd.မှ BOTစနစ်ဖြင့် လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅) မိုင်(၄) ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကို ၂၀၁၆ခုနှစ် ဖေဖော်ဝါရီလ ၁ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၅/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အစည်းအဝေး ဆုံးဖြတ်ချက်အား ဌာနနှင့် ကုမ္ပဏီထံသို့ အကြောင်းကြားမည့် **စာချော** တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

| | ရေးသွင်းသူ | စိစစ်သူ | ကြီးကြပ်သူ |
|---|---|---|---|
| လက်မှတ် | (လက်မှတ်) 8/2/16 | (လက်မှတ်) 8/2/16 | (လက်မှတ်) 8-2-16 |
| အမည် | အေးမွန်စိုး | နှင်းဖြူထွေး | မင်းလွင်ဆွေ |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၁။ Oriental Highway ... [illegible]

(ခင်သက်မော်)
ဒုတိယညွှန်ကြားရေးမှူး

ညွှန်ကြားရေးမှူး

ဒု- ညွှန်ကြားရေးမှူး

Oriental Ns

ကန့်သတ်

## ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## အဆိုပြုချက် စိစစ်ရေးအဖွဲ့

၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁ ရက်နေ့ နံနက် ၉း၀၀ နာရီတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့ရှိ အစည်းအဝေးခန်းမ၌ ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၅/၂၀၁၆) ကြိမ်မြောက် အစည်းအဝေး မှတ်တမ်း

**အစည်းအဝေးတက်ရောက်သည့် အဖွဲ့ဝင်များ/ ကိုယ်စားတက်ရောက်သူများ**

ဦးခင်မောင်သွင် — အဖွဲ့ဝင်
ဒုတိယအထွေထွေမန်နေဂျာ(အင်ဂျင်နီယာ)
ရန်ကုန်လျှပ်စစ်ဓာတ်အားပေးရေးကော်ပိုရေးရှင်း
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ဦးကြည်ဦး — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
အကောက်ခွန်ဦးစီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန

ဦးထွန်းသန်း — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
ပြည်တွင်းအခွန်များဦးစီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန

ဦးတင်ဦး — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
စက်မှုဝန်ကြီးဌာန

ဦးသန်းအေး — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ဦးငွေစိုး — ကိုယ်စား
ဒုတိယညွှန်ကြားရေးမှူး
ကုန်သွယ်ရေးဦးစီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေနေရာအသုံးပြုမှုနှင့်စပ်လျဉ်း၍ စက်မှုဇုန်ရရန် ရရှိသည့်အထိ ဆောင်ရွက်ရန်။

(ဂ) စက်မှုဇုန်အင်္ဂါရပ်နှင့်အညီ ဆောင်ရွက်ရန်။

(ဃ) တောင်ပိုင်းတိုင်းစစ်ဌာနချုပ်နှင့်နီးကပ်သဖြင့် ကာကွယ်ရေးဝန်ကြီးဌာနသို့ သဘောထားတောင်းခံရန်။

(င) အသေးစား၊အလတ်စား စီးပွားရေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက် ရေးလုပ်ငန်းကော်မတီသို့ တင်ပြရန်။

**၁၃။ Oriental Highway Co., Ltd. မှ B.O.T စနစ်ဖြင့် လားရှိုးမြို့ရှောင်လမ်း (၁၅) မိုင် (၄)ဖာလုံ ရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားရေးမှူးဦးစီးဌာန ညွှန်ကြားရေးမှူး ဦးလင်းထွဋ်က အမှာစာကို ဖတ်ကြားပြီး ကုမ္ပဏီမှ ရှင်းလင်းတင်ပြပါသည်။

ကုမ္ပဏီ၏ ဒါရိုက်တာ ဦးသန်းမြင့်က မိမိတို့ကုမ္ပဏီသည် B.O.T စနစ်ဖြင့် လားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီး၏ လားရှိုးမြို့ရှောင်လမ်းသစ်(၁၅/၄)မိုင်ရှိ လမ်းပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်းတံတားအသုံးပြုခကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၂.၇၉၅ သန်း အပါအဝင် ကျပ် ၂၀၇၆၁.၉၈၈ သန်းဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး (၄၅)နှစ်နှင့် သက်တမ်းတိုး (၁၀)နှစ် တစ်ကြိမ်ဖြစ်ကြောင်း၊ ပေ ၂၂၀ ရှိ နမ့်ပေါင်ကွန်ကရစ်တံတားတစ်စင်းပါဝင်ပြီး မိုင်၆/၃-၄ရှိ Toll Gate အသစ် သီးခြားထားကာကောက်ခံမည်ဖြစ်ကြောင်း၊ Toll Gate ဖြတ်သန်းခ ကောက်ခံမည့်နှုန်းမှာ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ သတ်မှတ်ထားသည့်နှုန်းထားအတိုင်း ကောက်ခံမည်ဖြစ်ကြောင်း၊ ကတ္တရာလမ်းအကျယ်မှာ ၃၂ ပေ ရှိပြီး ၂၀၁၅ ခုနှစ် ဇန်နဝါရီလ ၁၁ ရက်နေ့မှစ၍ လမ်းအသုံးပြုခ ကောက်ခံနေပါကြောင်း၊ လုပ်ငန်းဆောင်ရွက်ခြင်း၏ အရင်းကြေကာလမှာ (၂၁)နှစ် (၅)လဖြစ်ပြီး အရင်းအနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၄.၃၆ % ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာက ဆောက်လုပ်ရေးဝန်ကြီးဌာနမှ လမ်းအသုံးပြုခရငွေအပေါ် အခွန်ကင်းလွတ်ခွင့်ပေး-မပေး သိလိုကြောင်း၊ အဆိုပြုချက်တွင် တင်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပမာဏမှာ သုံးစွဲပြီးသည့်ပမာဏဟုတ်-မဟုတ် သိလိုပြီး ကုန်ကြမ်းတွင် ကတ္တရာပါဝင်ခြင်းရှိ-မရှိ သိလိုကြောင်း၊ ပြည်ပမှစက်ပစ္စည်းများ တင်သွင်းပြီးခြင်းရှိ-မရှိ သိလိုကြောင်း၊ Toll Gate တွင် Manual ဖြင့် လက်ခံအသုံးပြုခကောက်ခံနေခြင်းဟုတ်-မဟုတ် သိလိုကြောင်း၊ ပြည်ပမှစက်ပစ္စည်းများအား မည်သည့်လမ်းကြောင်းမှ တင်သွင်းမည်ကိုသိလိုပြီး နှစ်အလိုက်တင်သွင်းရန်ရှိ-မရှိ သိလိုကြောင်း၊ အဆိုပြုချက်ပါ နောက်ဆက်တွဲ-၂(ဂ) ပြည်ပမှတင်သွင်းမည့် စက်ပစ္စည်းစာရင်းပါ Tank Lorry မှာ Truck Car ဟုတ်-မဟုတ် သိလိုကြောင်း၊ လမ်းအသုံးပြုခကောက်ခံနေသည့် Toll Gate မှာ မည်သည့်နေရာတွင်ရှိသည်ကို သိလိုကြောင်း၊ လက်ရှိလုပ်ငန်းမှာ ပြီးစီးနေပြီဖြစ်၍ ပြည်ပမှတင်သွင်းမည့် ကုန်ကြမ်းပစ္စည်းစာရင်း ခေါင်းစဉ်အောက်တွင် ဘိလပ်မြေ၊ ကတ္တရာတို့ကို ပြန်နှုတ်ပေးရန်လိုပြီး တိုးချဲ့မည့်လမ်းအတွက် ခေါင်းစဉ်အသစ်အောက်တွင် လုပ်ငန်းသုံး

ပစ္စည်း(၂)မျိုးကို ဖော်ပြပေးရန်လိုကြောင်း၊ B.O.T စာချုပ် မည်သည့်နေ့တွင် သက်တမ်းစတင်မည်ကို သိလိုပြီး လမ်းဦးစီးဌာနမှ Completion Certificate ရပြီး-မပြီး သိလိုကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့် တည်ဆောက်ရေးကာလ စတင်မည့်ရက်ကို သိလိုပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရှင်းလင်းချက် တင်ပြပေးရန်လိုပါကြောင်း၊ လမ်းဦးစီးဌာနမှ အခြားလမ်းပိုင်းများအား မည်ကဲ့သို့ လုပ်ကိုင်ခဲ့သည်ကို သိလိုကြောင်း၊ တင်သွင်းမည့်ပစ္စည်းများအတွက် လမ်းဦးစီးဌာနမှ ထောက်ခံချက်ပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

လမ်းဦးစီးဌာန ဦးစီးအရာရှိ(ဘဏ္ဍာရေး) ဦးကျော်စွာမြင့်က လားရှိုးမြို့ရှောင်လမ်းသစ်ကို ၂၀၁၂ ခုနှစ် အောက်တိုဘာလ ၁၂ ရက်နေ့တွင် စတင်ဖောက်လုပ်ခဲ့ပြီး ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၂၄ ရက်နေ့တွင် ဖောက်လုပ်ခြင်းပြီးစီးခဲ့ကာ ၂၀၁၅ ခုနှစ် ဇန်နဝါရီလ ၁၁ ရက်နေ့မှစ၍ B.O.T စနစ်ဖြင့် လမ်းအသုံးပြုခကောက်ခံနေပါကြောင်း၊ လုပ်ငန်းစတင်ဆောင်ရွက်စဉ်က (၃)နှစ် အခွန်ကင်းလွတ်ခွင့်ပြုမည်လုပ်ထားသော်လည်း ရင်းနှီးမြှုပ်နှံမှုပမာဏများသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်ရှင်သို့ တင်ပြခြင်းဖြစ်ကြောင်း၊ လမ်းအရှည်မှာ (၁၅/၄)မိုင်ရှိ၍ Toll Gate တစ်ခုတည်ဆောက်လိုသဖြင့် တင်ပြခြင်းဖြစ်ကြောင်း၊ နိုင်ငံတော်မှ ဝင်ငွေခွန်အနေဖြင့် ကျပ် ၆၇.၆၄ သန်းနှင့် လမ်း၊တံတား ဖြတ်သန်းခအဖြစ် ကျပ် ၈၃.၅၇ သန်းရရှိမည်ဖြစ်ကြောင်း၊ ယခုလမ်းမှာ Asia World မှ လုပ်ကိုင်နေသည့်လမ်းအပိုင်းကို ပတ်၍သွားရမည်ဖြစ်ကြောင်း၊ ကုမ္ပဏီသည်တည်ဆောက်ရေးကာလကို(၂)နှစ်တောင်းခံထားပါကြောင်း ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူးချုပ်(၂) ဦးသန်းအောင်ကျော်က လမ်းဖောက်လုပ်ခြင်းလုပ်ငန်းအားလုံး ဆောင်ရွက်ပြီးခြင်းရှိ-မရှိ သိလိုပြီး ပြည်ပမှစက်ပစ္စည်းများတင်သွင်းပြီးခြင်းရှိ-မရှိသိလိုကြောင်း၊ အဆိုပြုချက်ပါနောက်ဆက်တွဲ-၂(ဂ)ပြည်ပမှတင်သွင်းမည့်စာရင်းပါ Tractor Heads (10) Unit အားမည်သည့်အတွက် တင်သွင်းမည်ကို သိလိုကြောင်း၊ ဆောင်ရွက်ပြီးလုပ်ငန်းများအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အခွန်ကင်းလွတ်ခွင့်ဖြင့် ပစ္စည်းများတင်သွင်းခွင့်ပြုမည်မဟုတ်ကြောင်း၊ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ်ခံစားခွင့် ရမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူးချုပ်(၁) ဦးဆန်းမြင့်က လုပ်ငန်းဆောင်ရွက်ရန် ရင်းနှီးမြှုပ်နှံမှု တိုးချဲ့ထည့်ဝင်ထားပါက ပစ္စည်းများတင်သွင်းခြင်းအပေါ် အခွန်အကောက်ကင်းလွတ်ခွင့် ရမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ရန်ကုန်လျှပ်စစ်ဓာတ်အားပေးရေးကော်ပိုရေးရှင်း ဒုတိယအထွေထွေမန်နေဂျာ (အင်ဂျင်နီယာ) ဦးခင်မောင်သွင်က Toll Gate လုပ်ထား၍ လျှပ်စစ်မီး မည်ကဲ့သို့ရယူထားသည်ကို သိလိုကြောင်း၊ အဆိုပြုချက်ပါ နောက်ဆက်တွဲ-၂(ဂ) ပြည်ပမှတင်သွင်းမည့် စက်ပစ္စည်းခေါင်းစဉ်ရှိ Electrical ကို ဖြုတ်ပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပြည်တွင်းအခွန်များဦးစီးဌာန ညွှန်ကြားရေးမှူး ဦးထွန်းသန်းက လုပ်ငန်ဆောင်ရွက်ရန် B.O.T စာချုပ်ချုပ်ဆိုပြီးခြင်းရှိ-မရှိ သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးမျိုးတင့်အောင်က လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း(၂၅)ဦးခန့်ထားမည်ဟု ဖော်ပြထားကြောင်း၊ အဆိုပြုချက်

တွင် လုပ်မှုဖူလုံရေးဝင်ရောက်ရန် မပါသေးပါသဖြင့် တင်ပြပေးရန်လိုကြောင်း၊ ဝန်ထမ်းခန့်ထားပြီးပါက ဥပဒေနှင့်အညီ အလုပ်ရှင်၊အလုပ်သမား စာချုပ်ချုပ်ဆိုရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန ညွှန်ကြားရေးမှူး ဦးသန်းအေးက လုပ်ငန်းဆောင်ရွက်မည့် လမ်းပိုင်းမှာ Express way ထဲတွင် ပါဝင်ခြင်းရှိ-မရှိ သိလိုပြီး လမ်းဖောက်လုပ်ခြင်းလုပ်ငန်းဖြစ်၍ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Enviromental Examiniation-IEE) အစီရင်ခံစာရေးဆွဲတင်ပြရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုမ္ပဏီ၏ ဒါရိုက်တာ ဦးသန်းမြင့်က လုပ်ငန်းဆောင်ရွက်စဥ်က ဆောက်လုပ်ရေးဝန်ကြီးဌာနမှ အခွန်ကင်းလွတ်ခွင့် (၃)နှစ်ပေးမည်လုပ်ခဲ့သော်လည်း လုပ်ကိုင်မည့်လမ်းပိုင်းမှာ မိုင်တိုင်တိုပြီး ရင်းနှီးမြှုပ်နှံမှုပမာဏများ၍ အဆိုပြုချက် တင်ပြရခြင်းဖြစ်ကြောင်း၊ ယခုတင်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမှန်တကယ်သုံးစွဲခဲ့သည့်ပမာဏဖြစ်ပြီး ဘိလပ်မြေနှင့်ကတ္တရာကို ပြင်ပမှဝယ်ယူ အသုံးပြုခဲ့ပါကြောင်း၊ ပြည်ပမှစက်ပစ္စည်းများ မတင်သွင်းရသေးဘဲ လိုအပ်၍ တင်သွင်းပါက နှစ်အလိုက် မဟုတ်ဘဲ တစ်ကြိမ်သာ တင်သွင်းမည်ဖြစ်ကြောင်း၊ ယခု Toll Gate တွင် ကွန်ပျူတာစနစ်ဖြင့် လမ်းအသုံးပြုခကောက်ခံနေပြီး အခြားလမ်းပိုင်းမှယူ၍ တပ်ဆင်ထားခြင်းဖြစ်သောကြောင့် အစားပြန်ပေးရမည်ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့်လမ်းပိုင်းမှာ လမ်းတို၍ အဆိုပါနေရာတွင် သုံး၍ရသည့်စက်ပစ္စည်းများကိုသာ ဝယ်ယူမည်ဖြစ်ကြောင်း၊ စက်ပစ္စည်းများအား ရေလမ်းကြောင်းမှ တင်သွင်းမည်ဖြစ်ကြောင်း၊ ယခုလုပ်ငန်းဆောက်ရွက်နေသည့် Toll Gate မှာ လားရှိုးမြို့အထွက်တွင် ရှိပါကြောင်း၊ Tractor Heads (10) Unit မှာ လမ်းတိုးချဲ့ဖောက်လုပ်ပါက အသုံးပြုရန်အတွက်ဖြစ်ကြောင်း၊ နိုင်ငံတော်မှ လိုအပ်ချက်အရ လမ်းဖောက်လုပ်ခြင်းအချိန်မီပြီးစီးအောင် အခြားသူများထံမှ ဘိလပ်မြေ၊ ကတ္တရာတို့ကိုယူပြီး အသုံးပြုထားသဖြင့် ယခုအစားပြန်ပေးလို၍ တင်သွင်းရခြင်းဖြစ်ကြောင်း၊ Toll Gate လုပ်ကိုင်သည့်နေရာနားတွင် ထရန်စဖော်မာတပ်ဆင်ထားသဖြင့် လျှပ်စစ်မီးရရှိသကဲ့သို့ မီးစက်ကိုလည်းအသုံးပြုပါကြောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်ရရှိပြီးမှ B.O.T စာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ ချုပ်ဆိုမည်ဖြစ်ကြောင်း၊ စာချုပ်သက်တမ်းမှာ လမ်းအသုံးပြုခကောက်ခံသည့်နေ့တွင် စတင်မည်ဖြစ်ကြောင်း၊ လမ်းဦးစီးဌာနမှ လုပ်ငန်းဆောင်ရွက်ခြင်းအတွက် Completion Certificate မပေးသေးပါကြောင်း၊ မိမိတို့လုပ်ငန်းဆောင်ရွက်နေသောလမ်းပိုင်းမှာ Express Way ထဲမှ ဖြတ်သန်းသွားရပါကြောင်း၊ လမ်းဦးစီးဌာနမှ တည်ဆောက်ရေးကာလအား လမ်းအသုံးခပြု စတင်ကောက်ခံသည့်နေ့မှ ရေတွက်ပါကြောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တည်ဆောက်ရေးကာလနှင့်ပတ်သက်၍ ရှင်းလင်းချက်တင်ပြပေးမည်ဖြစ်ကြောင်း၊ လမ်းဦးစီးဌာနအနေဖြင့် အခြားလမ်းပိုင်းများအား မြန်မာနိုင်ငံ ရင်နှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်ရရှိပြီးမှ လုပ်ငန်းစတင်ဆောင်ရွက်စေပါကြောင်း၊ မိမိတို့လုပ်ကိုင်သည့် လမ်းပိုင်းမှာ နိုင်ငံတော်မှ မဖြစ်မနေလိုအပ်၍ လမ်းဖောက်လုပ်ခိုင်းသည့်အတွက် ယခုကဲ့သို့ လုပ်ကိုင်ရခြင်းဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ Oriental Highway Co., Ltd. မှ B.O.T စနစ်ဖြင့် လားရှိုးမြို့ရှောင်လမ်း (၁၅)မိုင်(၄)ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတားအသုံးပြုခ ကောက်ခံခြင်း

လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စအား အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-

(က) ပြည်ပမှ တင်သွင်းမည့် ပစ္စည်းစာရင်း စိစစ်တင်ပြရန်။

(ခ) တည်ဆောက်ရေးကာလနှင့် ပတ်သက်၍ ရှင်းလင်းချက်တင်ပြရန်။

(ဂ) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်။

**၁၄။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် Aung Oo Wood Industry Co., Ltd. မှ ရာဘာပင်အိုသစ်များအား လေးဘက်ချောသစ်အဖြစ် ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ညွှန်ကြားရေးမှူး ဦးလင်းထွဋ်က အမှာစာကို ဖတ်ကြားပြီး ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ မန်းနေးဂျင်းဒါရိုက်တာ ဦးသန်းညွှန့်က မိမိအမည်ပေါက်ရရှိထားသော မွန်ပြည်နယ်၊ ကျိုက်ထိုမြို့နယ်၊ ကော့ဘိန်းကျေးရွာအုပ်စုရှိ မြေဧရိယာ(၃.၀၃)ဧကပေါ်တွင် ရာဘာပင်အိုသစ်များအား လေးဘက်ချောသစ်အဖြစ် ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၀.၅၁ သန်းအပါအဝင် ကျပ် ၁၁၀၆.၈၀၉ သန်းဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး နှစ်(၅၀)နှင့် သက်တမ်းတိုး(၁၀)နှစ် (၂)ကြိမ်ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း(၆၉)ဦးနှင့် ပြည်ပဝန်ထမ်း(၄)ဦး ခန့်ထားမည်ဖြစ်ကြောင်း၊ ရောင်းချမည့်စနစ်မှာ ပြည်တွင်း၌ ၅၀ % နှင့် ပြည်ပသို့ ၅၀ % တင်ပို့မည်ဖြစ်ကြောင်း၊ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်နေရာသည် ကျိုက်ထိုမြို့မှ (၁၁၂)မိုင် (၅)ဖာလုံတွင် ရှိပါကြောင်း ရှင်းလင်းတင်ပြပါသည်။

စိုက်ပျိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူး ဦးထွန်းထွန်းထွေးက လက်ရှိတွင် တစ်ကမ္ဘာလုံး၌ ရာဘာဈေးနှုန်းကျဆင်းနေကြောင်း၊ ကုမ္ပဏီမှ ရာဘာအသုံးပြုမည့်စက်ရုံ တည်ဆောက်လုပ်ကိုင်ခြင်းအား ဌာနအနေဖြင့်ကြိုဆိုပါကြောင်း၊ မွန်ပြည်နယ်တွင် ရာဘာပင်မှ လေးဘက်ချောသစ်အဖြစ် ထုတ်လုပ်သည့်စက်ရုံ(၅)ရုံနှင့် သစ်ပါးလွှာစက်ရုံ တစ်ရုံတို့ရှိပါကြောင်း၊ အဆိုပါစက်ရုံများမှ တစ်လလျှင် တန် (၃၀)ခန့် ထုတ်လုပ်နိုင်ကြောင်း၊ ပရိဘောဂထုတ်လုပ်သည့်စက်ရုံများမှာ တစ်နှစ်လျှင်ရာဘာပင်အို တန် တစ်သိန်းကျော်အသုံးပြုမည်ကို တွေ့ရကြောင်း၊ သထုံခရိုင်တွင် ရာဘာပင်အိုခုတ်လိုပါက ဌာန၏ထောက်ခံချက်ပါရှိမှခုတ်၍ရကြောင်း၊ ပြည်နယ်အစိုးရမှ ရာဘာပင်အိုခုတ်ပါက ရာဘာပင်ပျိုး ပြန်လည်စိုက်ပျိုးသည့်စနစ်ကျင့်သုံးနေပါကြောင်း၊ ကုမ္ပဏီအား အကြံပြုလိုသည်မှာ ရာဘာပင်အိုများခုတ်ပြီးပါက မျိုးကောင်းမျိုးသန့်ရာဘာပင်ပျိုးများ ပြန်လည်စိုက်ပျိုးပါက ပို၍ကောင်းပါကြောင်း၊ ဒေသတစ်ခုလုံးတွင် လုံလောက်စွာ စိုက်ပျိုးထားရှိမှသာ လိုသလောက် ခုတ်ယူရရှိနိုင်မည်ဖြစ်ကြောင်း၊ ဒေသခံအများစုမှာ အသုံးပြု၍မရသည့် ရာဘာပင်အိုအချို့ကို ထင်းအဖြစ်အသုံးပြုကြကြောင်း ဆွေးနွေးပြောကြားပါသည်။

သစ်တောဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးတင်ထွန်းက အဆိုပြုလုပ်ငန်းမှာ သစ်အစားထိုးလုပ်ငန်းဖြစ်၍ ကုမ္ပဏီမှ လုပ်ငန်းဆောင်ရွက်ခြင်းကို ကြိုဆိုပါကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာ၌ အသုံး



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇
☎ - ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/မ- ၁၅၂၂/၂၀၁၆( ၀၄၉ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂ ရက်

သို့

အဖွဲ့ခေါင်းဆောင်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
One Stop Service အဖွဲ့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ ဆောက်လုပ်ရေး ဝန်ကြီးဌာန၏ (၂၂-၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၁၅/ ဌာနခွဲ-၃/၂၀၁၆(စီ၂၈၂)

၁။ Oriental Highway Co., Ltd.မှ BOTစနစ်ဖြင့် လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅)မိုင် (၄) ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ အဆိုပြုချက်ပါ လုပ်ငန်းဆောင်ရွက်မည့် နေရာတွင် သဘာဝ ပတ်ဝန်းကျင် ထိခိုက်မှု ရှိ-မရှိနှင့် လုပ်ငန်းဆောင်ရွက်ရန် သင့်-မသင့် စသည့်အချက်များအပေါ် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန်နှင့် အဆိုပြု လုပ်ငန်းနှင့် စပ်လျဉ်း၍ ဦးသန်းမြင့် ဖုန်းနံပါတ် ၀၉-၆၇၀၆၁၀၅ သို့ ဆက်သွယ် ဆောင်ရွက်နိုင်ပါရန် အဆိုပြုချက်(တစ်)စောင် ပူးတွဲ ပေးပို့လျက် ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်။

၂.၂.၂၀၁၆
အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(ဆန်းမြင့်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

(42)

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ်(သို့မဟုတ်)စာကြမ်းရေးရန်

ရက်စွဲ၊ ၂၀၁၆ခုနှစ် ဖေဖော်ဝါရီ လ ၁ ရက်

အကြောင်းအရာ။ **Oriental Highway Co., Ltd. မှ BOTစနစ်ဖြင့် လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ Oriental Highway Co., Ltd.မှ BOTစနစ်ဖြင့် လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅) မိုင်(၄) ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီး ဌာနမှတစ်ဆင့်အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ရှမ်းပြည်နယ်အစိုးအဖွဲ့နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ သဘောထား တောင်းခံမည့် **စာချော (၂)စောင်** တွင် လက်မှတ် ရေးထိုးပေးနိုင်ပါရန် ပြုစု တင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** | **ကြီးကြပ်သူ** |
|---|---|---|---|
| လက်မှတ် | (signature) 1/2/16 | (signature) 1/2/16 | (signature) 1/2/16 |
| အမည် | (အေးမွန်စိုး) | (နှင်းဖြူထွေး) | (မင်းလွင်ဆွေ) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၃။ [illegible]

(ခင်သက်မော်)
ဒုတိယညွှန်ကြားရေးမှူး

ညွှန်ကြားရေးမှူး
[illegible]

ဦး ညွှန်ကြားရေးမှူး
[illegible]

Oriental Ns

(40)




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့
ဖက်(စ်) ၀၁-၆၅၈၁၃၃
☎ ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/မ- ၁၅၂၂ /၂၀၁၆( ၁၅၀ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီ လ ၂ ရက်

သို့

ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ (၁) နိုင်ငံတော်သမ္မတရုံး၏ (၂၀-၄-၂၀၁၁) ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ်၊ ၃၃/၂၀၁၁
(၂) ဆောက်လုပ်ရေး ဝန်ကြီးဌာန၏ (၂၂-၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၁၅/ ဌာနခွဲ-၃/၂၀၁၆(စီ၂၈၂)

၁။ Oriental Highway Co., Ltd.မှ BOTစနစ်ဖြင့် လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅)မိုင် (၄) ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့်ရည်ညွှန်း(၂)ပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်ဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရတို့၏ ထောက်ခံချက်ကို အထူးအလေးထားစဉ်းစားပါသဖြင့် ဝန်ကြီးချုပ် ကိုယ်တိုင်စိစစ် လက်မှတ်ရေးထိုးပြီး ထောက်ခံပေးပါရန် နိုင်ငံတော် သမ္မတရုံး၏ ရည်ညွှန်းချက်(၁)ပါ စာပိုဒ် ၃(စ) တွင် ဖော်ပြထားပါသည်။

၄။ ကော်မရှင်အနေဖြင့် လုပ်ငန်းအဆိုပြုလွှာများကို အမြန်ဆုံး စိစစ်ပေးရန် သမ္မတရုံးမှ ညွှန်ကြားထားပါသဖြင့် ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ အောက်ဖော်ပြပါ သဘောထား မှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန်နှင့် အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ဦးသန်းမြင့် ဖုန်းနံပါတ် ၀၉-၆၇၀၆၁၀၅ သို့ ဆက်သွယ် ဆောင်ရွက်နိုင်ပါရန် အဆိုပြုချက် တစ်စောင်အား ပူးတွဲ ပေးပို့လျက် ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြ စီမံကိန်းကို ထိခိုက်ခြင်း ရှိ/မရှိ။

(41)

(ခ) မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်/မဖြစ်။

(ဂ) ဖော်ပြပါ မြေနေရာတွင် လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/မရှိ။

(ဃ) ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သုံးသပ် အကြံပြုချက်။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
- ပြည်ထောင်စုဝန်ကြီးရုံး
- ဆောက်လုပ်ရေးဝန်ကြီးဌာန
- ညွှန်ကြားရေးမှူးချုပ်
- လမ်းဦးစီးဌာန
- Oriental Highway Co., Ltd.
- ရုံးလက်ခံ / မျှောစာတွဲ

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ်(သို့မဟုတ်)စာကြမ်းရေးရန်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ၂၇ရက်

အကြောင်းအရာ။ **Oriental Highway Co., Ltd.မှ BOTစနစ်ဖြင့် လားရှိုးမြို့ ရှောင်လမ်း (၁၅)မိုင် (၄)ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ အဆိုပြုချက် စိစစ်ရေးအဖွဲ့ (၅/၂၀၁၆)ကြိမ်မြောက် အစည်းအဝေးသို့တင်ပြမည့် အမှာစာ စာချောတွင် လက်မှတ်ရေးထိုး ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

| | ရေးသွင်းသူ | စိစစ်သူ | ကြီးကြပ်သူ |
|---|---|---|---|
| လက်မှတ် | (signature) 27/1/16 | (signature) 27/1/16 | (signature) 27.1.16 |
| အမည် | အေးမွန်စိုး | နှင်းဖြူထွေး | မင်းလွင်ဆွေ |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၂။ PAT (5/2016) အစည်းအဝေးသို့တင်ပြမည့် အမှာစာအား ဆက်လက်တင်ပြအပ်ပါသည်။

(signature) 27.1.16
(ဇော်ဝင်းအောင်ဦး)

ညွှန်ကြားရေးမှူး

၃။ ပြန် ၂၇.၁.၂၀၁၆ (ပြန်)

DAMS
၂၇.၁.၂၀၁၆

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
## အဆိုပြုချက်စိစစ်ရေးအဖွဲ့

စာအမှတ်၊ရက-၄/မ-၁၅၂၂/၂၀၁၆( ၁၂၅ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၇ ရက်

**အဆိုပြုချက်စိစစ်ရေးအဖွဲ့သို့တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **Oriental Highway Co., Ltd.မှ BOTစနစ်ဖြင့် လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ Oriental Highway Co., Ltd.မှ BOTစနစ်ဖြင့် လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅)မိုင် (၄) ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီး ဌာနမှတစ်ဆင့် အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ကော်မရှင်ရုံးအဖွဲ့မှ Check List ဖြင့် စိစစ်ခဲ့ပြီး Check List ပါ လိုအပ်ချက်များအား ပြည့်စုံစွာ ထပ်မံပေးပို့ပါရန် ကုမ္ပဏီသို့ ပြောကြားပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Oriental Highway Co., Ltd. မှ BOTစနစ်ဖြင့် လားရှိုးမြို့ ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်အတွက် ကြိုတင်စိစစ်ပေးပါရန် တင်ပြခြင်းအပေါ် အဖွဲ့ဝင်များနှင့် ဌာနများ မှ ကြိုတင်စိစစ်ချက်အရ လိုအပ်ချက်များ၊ ပြင်ဆင်ဖြည့်စွက်ရန် ကိစ္စများ၊ လုပ်ထုံးလုပ်နည်းနှင့် မညီ ညွတ်သည့် ကိစ္စများကို ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(မြစန္ဒာ၊ ညွှန်ကြားရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

# Oriental Highway Co., Ltd.၏ B.OT စနစ်ဖြင့် လားရှိုး-မူဆယ် ပြည်ထောင်စု လမ်းမကြီး၏ လားရှိုးမြို့ရှောင်လမ်းသစ်(၁၅/၄)မိုင်ရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း နှင့် စပ်လျဥ်းသည့် အဓိကအချက်များ

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - | Oriental Highway Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - | ဦးမောင်ကျေး(အဘ-ဦးခင်ငါး) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - | B.OT စနစ်ဖြင့် လားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီး၏ လားရှိုးမြို့ရှောင်လမ်းသစ် (၁၅/၄)မိုင်ရှိ လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်၍ လမ်း-တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - | ရှမ်းပြည်နယ်၊ လားရှိုးမြို့ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br><br>- ငွေပမာဏ<br>- စက်ပစ္စည်းကိရိယာများ<br>- အဆောက်အဦ<br>- ကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ | - | **ကျပ် ၂၀၇၆၁.၉၈၈ သန်း (US$၂.၇၉၅ သန်း အပါအဝင်)**<br><br>ကျပ် ၁၇၂၂၆.၇၄၀ သန်း<br>သန်း ၁၁၁၃.၇၇၂ သန်း (US$ ၀.၈၃၉ သန်း)<br>ကျပ် ၇၅.၀၀၀ သန်း<br>ကျပ် ၂၃၄၆.၄၇၆ သန်း (US$ ၁.၉၅၅ သန်း) |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - | ကနဦး ၄၅ နှစ် + ၁၀ |
| ၇။ | တည်ဆောက်ရေးကာလ<br>ပဏာမစူးစမ်းလေ့လာမှုကာလ | -<br>- | ၁ နှစ်<br>၆ လ |
| ၈။ | လမ်းတံတားအသုံးပြုခကောက်ခံမည့် ဂိတ်တည်နေရာ | - | လားရှိုး မြို့ရှောင်လမ်းသစ် အပိုင်းတွင် ပေ(၂၂၀)ရှိ နမ့်ပေါင် ကွန်ကရစ် တံတားတစ်စင်း ပါဝင်ပါသည်။ လမ်းပိုင်းအတွက် အသွား/အပြန် လမ်းအသုံးပြုခကို မိုင်တိုင်၆/၃-၄ရှိ တိုးဂိတ်စခန်းရုံးမှ ကောက်ခံမည် ဖြစ်ပါသည်။ |
| ၉။ | ဝင်ငွေ(၇ နှစ်မြောက်) | - | ကျပ် ၁၆၇၁.၃၆ သန်း |
| ၁၀။ | အသားတင်အမြတ်(၇ နှစ်မြောက်) | - | ကျပ် ၂၀၂.၉၂ သန်း |
| ၁၁။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း | - | <br>၂၅ ဦး |
| ၁၂။ | အရင်းကြေကာလ | - | ၂၀ နှစ် ၅ လ |
| ၁၃။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) | - | ၄.၃၆ % |
| ၁၄။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ်<br>(၇ နှစ်မြောက်)<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခရငွေ | <br><br>-<br>- | <br><br>ကျပ် ၆၇.၆၄ သန်း<br>ကျပ် ၈၃.၅၇ သန်း |

| | | | |
|---|---|---|---|
| ၁၅။ | ငွေကြေးအထောက်အထား | - | ကျပ်ငွေအထောက်အထားအဖြစ် Oriental Highway Co., Ltd. အမည်ဖြင့် ဧရာဝတီဘဏ်တွင် (၁၆-၁၀-၂၀၁၅) နေ့စွဲရှိ ငွေလက်ကျန် ကျပ်(၅၁၀.၇၃)သန်းရှိကြောင်း တင်ပြထားပါသည်။ နိုင်ငံခြားငွေအထောက်အထားအဖြစ် Oriental Highway Co., Ltd.အမည်ဖြင့် မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ်တွင် (၂၄-၁၁-၂၀၁၅) နေ့စွဲရှိ ငွေလက်ကျန် US$ (၀.၈၁)သန်းရှိကြောင်း တင်ပြထားပါသည်။ |
| ၁၆။ | BOTစာချုပ်မူကြမ်းပါ အဓိကအချက်များ | - | ဆောက်လုပ်ရေးဝန်ကြီးဌာန၊ လမ်းဦးစီးဌာနနှင့်Oriental Highway Co., Ltd. တို့ ချုပ်ဆိုမည့် မန္တလေး-လားရှိုး-မူဆယ် ပြည်ထောင်စု လမ်းမကြီး၏ လားရှိုးမြို့ရှောင် လမ်းသစ်အပိုင်းကို ဖောက်လုပ်ပြုပြင် အဆင့်မြှင့်တင်ခြင်း၊ လုပ်ငန်းလုပ်ကိုင်ခြင်းနှင့် လွှဲပြောင်းပေးခြင်း ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အညီ BOT စာချုပ်မူကြမ်းပါ အဓိက အချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-<br>(က)စာချုပ်၏ သက်တမ်းကာလမှာ (၄၅)နှစ်ဖြစ်ပြီး သက်တမ်းကို ရေတွက်ရာတွင် ခွင့်ပြုသတ်မှတ် ပေးထားသည့် လုပ်ငန်းကာလ (၃)နှစ်အထိ ပဋိညာဉ်စာချုပ် ဆောင်ရွက်ရမည့် လုပ်ငန်းများကို အပြီးဆောင်ရွက်ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်းကာလ(၃)နှစ်ထက်စော၍ ပြီးစီးပြီး လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှုလက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ်အနက် စောရာနေ့ရက်ကာလမှ စတင်ရေတွက်သတ်မှတ်ရမည်။ [စာချုပ်(မူကြမ်း)အပိုဒ်-၂၃ -ခ]<br>(ခ) ပဋိညာဉ်သက်တမ်းကာလ ဆက်လက် တိုးမြှင့်လိုပါက ပဋိညာဉ်သက်တမ်းကာလ မစေ့ရောက်မီ (၆)လကြိုတင်၍ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံတင်ပြ၍ နှစ်ဖက် သဘောတူပါက (၁၀)နှစ်(၁)ကြိမ်သာ တိုးမြှင့်နိုင်သည်။ [စာချုပ်(မူကြမ်း) အပိုဒ်- ၂၃ -ဂ]<br>(ဂ) လုပ်ငန်းအာမခံအနေဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ သည် စာချုပ်ချုပ်ဆိုပြီး (၃၀)ရက်အတွင်း ရင်းနှီး မြှုပ်နှံမှု ကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်း နှင့် ညီမျှသောငွေကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံအတွင်းရှိ တရားဝင် ခွင့်ပြုထားသော ဘဏ်တစ်ခုခုမှ ထုတ်ပေးသည့် ကြိုတင် စည်းကမ်းချက်များမပါရှိဘဲ ပြန်လည် ရုပ်သိမ်းနိုင်ခွင့်မရှိသော လုပ်ငန်း အကောင်အထည်ဖော်ရန် တာဝန်ယူသည့် ဘဏ်အာမခံကိုလုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ ထံပေးအပ်ရမည်။ [စာချုပ်(မူကြမ်း) အပိုဒ်- ၆] |

(ဃ) တံတားအသုံးပြုခများကို ကောက်ခံရာတွင် ပေ (၁၈၀) အထက် ရှည်သည့် တံတားများ အတွက် နိုင်ငံတော်မှ တည်ဆောက်ထားသော တံတားများ အား လေလံစနစ်ဖြင့်လည်းကောင်း၊ သက်ဆိုင်ရာ ကုမ္ပဏီ၏ ရန်ပုံငွေဖြင့် တည်ဆောက်သော တံတား များအတွက်လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ငန်း လုပ်ကိုင်ခွင့် ရသူတို့၏ ညှိနှိုင်းသဘောတူညီသည့် နှုန်းထားဖြင့် ကောက်ခံရမည်ဖြစ်သည်။ [စာချုပ် (မူကြမ်း) အပိုဒ်- ၈ ခ(၁) ]

(င)လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းလုပ်ကိုင်ခွင့် ပြုသူ၏ စာဖြင့်ရေးသားထားသော ခွင့်ပြုချက်မရဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ လုပ်ငန်း တစ်စိတ် တစ်ဒေသကို ထပ်ဆင့် ငှားရမ်းခြင်းမပြုရ။ [စာချုပ် (မူကြမ်း) အပိုဒ်- ၅ ထ ]

(စ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်း လုပ်ကိုင်ခွင့် ပြုသူ၏စာဖြင့် ရေးသားထားသော ခွင့်ပြုချက်မရဘဲ လမ်း၊ တံတား အသုံးပြုခကောက်ခံရေးဂိတ်များနှင့် ကောက်ခံသည့်နှုန်းထားများကိုပြောင်းလဲခြင်းမပြုရ။ [စာချုပ်(မူကြမ်း) အပိုဒ်- ၅ ဓ ]

(ဆ)စတင်ကောက်ခံသည့် ပထမ(၅)နှစ်ကာလအတွက် လမ်း/တံတားအသုံးပြုခမှ နိုင်ငံတော်သို့ ပေးသွင်း ခြင်းကို ကင်းလွတ်ခွင့်ပြုသည်။ ကျန်ကာလအတွက် အောက်ပါအတိုင်း နိုင်ငံတော်သို့ ပေးသွင်းရန်ဖြစ် သည်[စာချုပ်အပိုဒ် ၅-ပ ]

| | | |
|---|---|---|
| (၁) | ပထမ(၅)နှစ်အတွက် | ကင်းလွတ်ခွင့် ကာလ |
| (၂) | (၆)နှစ်မြောက်မှ(၁၅)နှစ် မြောက်အထိ (၁၀)နှစ် | ၅% |
| (၃) | (၁၆)နှစ်မြောက်မှ(၂၅)နှစ် မြောက်အထိ (၁၀)နှစ် | ၁၀% |
| (၄) | (၂၆)နှစ်မြောက်မှ(၃၅)နှစ် မြောက်အထိ (၁၀)နှစ် | ၁၅% |
| (၅) | (၃၆)နှစ်မြောက်မှ(၄၅)နှစ် မြောက်အထိ (၁၀)နှစ် | ၂၀% |
| (၆) | ၄၅ နှစ်ကျော် ကာလအတွက် အချိန်တိုးမြှင့် ကောက်ခံခွင့် တင်ပြချိန်တွင် နိုင်ငံတော်မှ သတ် မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်း ပေးသွင်းရန် ဖြစ်ပါသည်။ | |

47

| | | | |
|---|---|---|---|
| | | | (ဇ) လုပ်ငန်းလုပ်ကိုင်ခွင့် ရသူသည်စာချုပ်အရ လုပ်ငန်းလုပ်ကိုင်ခွင့်ပြု သည့်ကာလ (၄၅)နှစ် (သို့မဟုတ်) လုပ်ငန်းဆက်လက်လုပ်ကိုင်ရန် နောက်ထပ်တိုးမြှင့်သော ကာလများ ပြီးဆုံးပါက အဆိုပါလမ်းနှင့် တံတားများ၊ ဂိတ်များနှင့် အဆောက်အအုံများကို ဖောက်လုပ်ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထားအတိုင်း "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" အား အဖိုးစားနား တစ်စုံတစ်ရာ မရှိဘဲလွှဲပြောင်းပေးရမည်။ [စာချုပ်(မူကြမ်း) အပိုဒ်- ၂၀ ] |
| ၁၇။ | ကော်မရှင်ရုံးအဖွဲ့မှ စိစစ်တင်ပြချက် | - | ဝင်ငွေ၊ နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် နှင့် အရင်းအနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) တို့မှာ ကုမ္ပဏီမှ တင်ပြချက်အရ ဖော်ပြထားခြင်းသာ ဖြစ်ပါသည်။ |
| | | - | လားရှိုးမြို့ရှောင်လမ်းသစ်ကို ၂၄-၁၂-၂၀၁၄ ရက်နေ့တွင် ၁၀၀% ဖောက်လုပ်ပြီးစီးခဲ့ပြီး ၁၁-၁-၂၀၁၅ရက်နေ့မှစ၍ BOTလမ်းအသုံးပြုခ ကောက်ခံနှုန်းဖြင့် ကောက်ခံလျက်ရှိပါသဖြင့် ယခုလုပ်ငန်းမှာ စီးပွားဖြစ်စတင်လျက်ရှိကြောင်းနှင့် တည်ဆောက်ရေး ကာလ၁နှစ် နှင့် ပဏာမစူးစမ်းလေ့လာမှုကာလ ၆လ ဟု ဖော်ပြထားကြောင်း စိစစ်တွေ့ရှိရပါသည်။ |
| | | - | စာချုပ်အပိုဒ် (၉-ဂ)အရ လုပ်ငန်း ကာလ (၃)နှစ်ဟုဖော်ပြထားသော်လည်း မနသပုံစံ-၁တွင် တည်ဆောက်ရေးကာလ ၁နှစ် ဟု ဖော်ပြထားသောကြောင့် ရှင်းလင်းစွာ ဖော်ပြပေးရန်။ |
| | | | ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်အရ ဘဏ်အာမခံပုံစံသည် တရားဝင်ဘဏ် လုပ်ငန်းလုပ်ကိုင်လျက်ရှိသည့် နိုင်ငံတော်သက်ဆိုင်ရာဘဏ်က သတ်မှတ်ထားသော ဘဏ်အာမခံပုံစံဖြစ်ရန် လိုအပ်ပြီး ၎င်းပုံစံအား စာချုပ်၏ နောက်ဆက်တွဲ အဖြစ်ပူးတွဲဖော်ပြရန်၊ |
| | | - | အရှုံးအမြတ်စာရင်းတွင် CSR ကို ထည့်သွင်း ဖော်ပြပေးရန်။ |

# မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ရာတွင် စိစစ်ရမည့် အဓိက အချက်များ

ကဏ္ဍ - ဆောက်လုပ်ရေးလုပ်ငန်း

ဆောင်ရွက်မည့်လုပ်ငန်း - BOT စနစ်ဖြင့် လမ်းဖောက်လုပ်ခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | စိစစ်ချက် ပါ (✓) မပါ (x) |
|---|---|---|
| ၁။ | **မြေနေရာနှင့် စပ်လျဉ်းသည့် အချက်များ**<br>(က)လမ်းဖောက်လုပ်ခြင်းလုပ်ငန်း ဖြစ်သဖြင့် ရွှေ့နေချုပ် ရုံး သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသော စာချုပ်(မူကြမ်း) နှင့်အတူ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့်တင်ပြရန် | X ✓ |
| ၂။ | **စက်ပစ္စည်း/ လုပ်ငန်းသုံးပစ္စည်းများ**<br>(က) ပြည်တွင်းမှ ဝယ်ယူမည့် စာရင်း၊<br>(ခ) ပြည်ပမှ ဝယ်ယူမည့် စာရင်း၊ | ✓<br>✓ |
| ၃။ | **စီးပွားရေးဆိုင်ရာ တင်ပြချက်များ**<br>(က) နှစ်စဉ်ဝန်ဆောင်မှု ရည်မှန်းချက်<br>(ခ) ဝန်ဆောင်မှုအစီအစဉ်<br>(ဂ) အရှုံး/အမြတ်စာရင်း (ကိန်းဂဏန်း အချက်အလက်များ၏ ငယ်စာရင်း တင်ပြရန်)<br>(ဃ) ငွေသားစီးဆင်းမှုစာရင်း (Cash Flow Statement) ၊ IRR ၊ Pay back တွက်ချက်မှုများ(ကိန်းဂဏန်းအချက်အလက်များ၏ ငယ်စာရင်း တင်ပြရန်)<br>(င) နိုင်ငံတော်က ရရှိမည့်အကျိုးအမြတ်အခြေအနေ(ဝင်ငွေခွန်/ကုန်သွယ်လုပ်ငန်းခွန်)<br>(စ) အလုပ်အကိုင် ရရှိမှု အခြေအနေ<br>(ပြည်တွင်း/ပြည်ပ ဝန်ထမ်းအင်အားစာရင်း၊ လစာ တွက်ချက်မှု) | ✓<br>✓<br>✓<br>✓<br>✓<br>✓ |
| ၄။ | **ငွေကြေးအထောက်အထား**<br>(က) ရင်းနှီးမြှုပ်နှံမည့် ပြည်တွင်းသုံးငွေအတွက် ဝယ်ယူပြီးတန်ဖိုးမှအပ ဘဏ် အထောက်အထား တင်ပြရန်၊<br>(ခ) ရင်းနှီးမြှုပ်နှံမှုတွင် နိုင်ငံခြားငွေ ပါဝင်ပါက ၎င်းအတွက် MFTB/ MICB ၏ Bank Statement တင်ပြရန်၊ | ✓<br>✓ |

(49)

| စဉ် | အကြောင်းအရာ | စိစစ်ချက် ပါ (✓) မပါ (x) |
|---|---|---|
| ၅။ | **လမ်းနှင့် သက်ဆိုင်သည့် စာရွက်စာတမ်းများ** | |
| | (က)လမ်းဖောက်လုပ်မည့် တည်နေရာပြပုံ ၊ လမ်းအသုံးပြုခကောက်ခံ မည့် ဂိတ်တည်နေရာ နှင့် လမ်းအရှည်မိုင် | |
| | (ခ) ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ကြိုတင်ခွင့်ပြုမိန့် | X ✓ |
| | (ဂ) တံတားစာရင်း | X |
| ၆။ | **အထွေထွေ** | |
| | (က) အဆိုပြုတင်ပြခြင်းနှင့်အခွန်အကောက်ကင်းလွတ်ခွင့်လျှောက်လွှာ | ✓ |
| | (ခ) ကတိဝန်ခံချက် | ✓ |
| | (ဂ) ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ်မိတ္တူ | ✓ |
| | (ဃ) လုပ်ငန်းဆောင်ရွက်မည့်တည်နေရာပြမြေပုံ | ✓ |
| | (င) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | ✓ |
| | (စ) လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက် | ✓ |
| | (ဆ) အဆောက်အဦ ဆောက်လုပ်ပြီးဖြစ်ပါက အဆောက်အဦ ဓါတ်ပုံ မိတ္တူ | n.c |
| | (ဇ) အဆောက်အဦ မဆောက်လုပ်ရသေးပါက အဆောက်အဦ ပုံစံ | |
| | (ဈ) ကုမ္ပဏီဖွဲ့စည်းပြီးပါက ကုမ္ပဏီမှတ်ပုံတင် လက်မှတ် / ပုံစံ (၆) (အစုရှယ်ယာ လွှဲပြောင်းမှု) / ပုံစံ (၂၆) (ဒါရိုက်တာစာရင်း) | ✓ |
| ၇။ | **လုပ်ငန်းနှင့် သက်ဆိုင်သည့် စာချုပ်များ** | |
| | (က) ဌာနပိုင်မြေကို BOT စနစ်ဖြင့် ငှားရမ်းဆောင်ရွက်ခြင်းဖြစ်ပါက ရှေ့နေချုပ်ရုံးမှ သဘောထားမှတ်ချက်နှင့် အညီပြုစုထားသည့် BOT စာချုပ် (မူကြမ်း) | X ✓ |
| | (ခ) ဌာနနှင့် ဖက်စပ်လုပ်ငန်း ဆောင်ရွက်ပါက လုပ်ငန်းသဘောတူ စာချုပ် (မူကြမ်း) | |

**လာရောက်တင်ပြသူ**

လက်မှတ် ------------------

အမည် ------------------

တာဝန် ------------------

ကုမ္ပဏီ ------------------

နေ့စွဲ ၁၆. ၁. ၂၀၁၅

၀၉ ၆၇၀၆၁၀၅

**စိစစ်သူ**

လက်မှတ် ------------------

အမည် ------------------

ရာထူး ------------------

ဌာနခွဲ ------------------

နေ့စွဲ ၁၆. ၁. ၂၀၁၅





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**ဆောက်လုပ်ရေးဝန်ကြီးဌာန**

ဝန်ကြီးရုံး

နေပြည်တော်

စာအမှတ်၊ ၁၅ / ဌာနခွဲ- ၃ / ၂၀၁၆ (စီ ၄၂၂)

ရက် စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Oriental Highway Co.,Ltd.မှ B.O.T စနစ်ဖြင့် ဆောင်ရွက်လျက် ရှိသော လားရှိုးမြို့ရှောင်လမ်း (၁၅) မိုင် (၄) ဖာလုံအတွက် လုပ်ငန်း လုပ်ကိုင်ခွင့် အဆိုပြုလွှာတင်ပြချက်အပေါ် ကုမ္ပဏီမှ ပြန်လည်တင်ပြရန် အချက်များနှင့် ပတ်သက်၍ တင်ပြခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉.၂.၂၀၁၆) နေ့စွဲပါစာအမှတ်၊ ရက- ၄/ မ-၁၅၂၂/ ၂၀၁၆ (၁၈၉-က)

၁။ Oriental Highway Co.,Ltd. မှ လားရှိုးမြို့ရှောင်လမ်းသစ် (၁၅) မိုင် (၄) ဖာလုံအား B.O.T စနစ်ဖြင့် လုပ်ငန်း လုပ်ကိုင်ခွင့် အဆိုပြုလွှာတင်ပြချက်နှင့် စပ်လျဉ်း၍ (၁-၂-၂၀၁၆)နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အဆိုပြုချက် စိစစ်ရေး အဖွဲ့၏ (၅/၂၀၁၆) အစည်းအဝေးတွင် ဆွေးနွေးဆုံးဖြတ်ချက်များအရ ကုမ္ပဏီမှ ပြန်လည် တင်ပြရန် အချက်များအား ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် ကော်မရှင်သို့ ပြန်လည်တင်ပြရန် ရည်ညွှန်းစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ကော်မရှင်၏ အဆိုပြုချက် စိစစ်ရေးအဖွဲ့မှ ဆွေးနွေးဆုံးဖြတ်ချက်အပေါ် အောက်ဖော်ပြပါအတိုင်း ပြန်လည် စိစစ်တင်ပြအပ်ပါသည်-

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းစာရင်းတွင် တည်ဆောက်ရေး လုပ်ငန်းသုံးပစ္စည်းများအား စိစစ်တင်ပြရန်နှင့်ပတ်သက်၍ ကုမ္ပဏီမှ လမ်းစီမံကိန်းအား ဖောက်လုပ်ပြီးဖြစ်၍လုပ်ငန်းသုံးပစ္စည်းများဖြစ်သည့် ကတ္တရာနှင့်ဘိလပ်မြေကို ပြည်ပမှ တင်သွင်းသုံးစွဲမှုအစားပြည်တွင်းဝယ်ယူသုံးစွဲမှုအဖြစ်အဆိုပြုချက်၏ ရင်းနှီးမြှုပ်နှံမှုပမာဏတွင် ကုမ္ပဏီမှ ပြင်ဆင်တင်ပြလာပါသည်။

(ခ) မနသ ပုံစံ-၁နှင့် B.O.T စာချုပ်တွင် ဖော်ပြထားသော တည်ဆောက်ရေး ကာလနှင့်ပတ်သက်၍ ရှင်းလင်းချက်တင်ပြရန် ကိစ္စနှင့်ပတ်သက်၍ လားရှိုးမြို့ရှောင်လမ်းသစ် (၁၅) မိုင် (၄) ဖာလုံ အား ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ဒုတိယသမ္မတ ဒေါက်တာ စိုင်းမောက်ခမ်း၏ ခရီးစဉ် လမ်းညွှန်ချက်အရ Oriental Highway Co.,Ltd. မှ (၁၇ - ၁၀ -၂၀၁၂) ရက်နေ့မှစ၍ လမ်းဖောက်လုပ် ဆောင်ရွက်ခဲ့ပြီး (၂၄-၁၂-၂၀၁၄) ရက်နေ့တွင် ဆောင်ရွက်ပြီးစီးခဲ့ပါသည်။ ကုမ္ပဏီသည်

လမ်းညွှန်ချက်အရ လမ်းစီမံကိန်းအားအင်တိုက်အားတိုက် ဆောင်ရွက်ခဲ့စဉ်ကာလအတွင်း လုပ်ငန်းပြီးစီးရေးကိုသာ ဦးစားပေး လုပ်ကိုင်ခဲ့သောကြောင့် B.O.Tစနစ်ဖြင့်ဆောင်ရွက်ရန် အဆိုပြုလွှာအား တင်ပြနိုင်ခြင်း မရှိခဲ့ဘဲ လုပ်ငန်းဆောင်ရွက်ပြီးစီးသည့် နောက်မှသာ အဆိုပြုလွှာအား ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ တင်ပြနိုင်ခဲ့ပါသည်။ ကုမ္ပဏီမှ လုပ်ငန်းဆောင်ရွက်ပြီးစီးမှုအရ B.O.T နှုန်းဖြင့် လမ်းအသုံးပြုခကောက်ခံခွင့်အား ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ ထောက်ခံချက် ဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ (၁၁-၁-၂၀၁၅)နေ့မှစတင်၍ ကောက်ခံခွင့်ပြုခဲ့ပါသည်။

(ဂ) ဆောက်လုပ်ရေးဝန်ကြီးဌာနအနေဖြင့် B.O.T စနစ်ဖြင့် ဆောင်ရွက် ခွင့်ပြုသော လမ်းများအား တည်ဆောက်ချိန်ကာလ (လုပ်ငန်းကာလ) ကို (၃)နှစ် လုပ်ကိုင်ခွင့်ပြုကြောင်း B.O.T ပဋိညာဉ်စာချုပ်တွင် ထည့်သွင်းဖော်ပြ ထားပါသည်။ လမ်းစီမံကိန်း လုပ်ငန်းများအတွက် တည်ဆောက်ချိန်ကာလအား ပုံမှန်အားဖြင့် (၃)နှစ် လုပ်ကိုင်ခွင့်ပြု ထားသော်လည်း ဖော်ပြပါ လားရှိုး-မြို့ရှောင်လမ်းလုပ်ငန်းအားဒေသလိုအပ်ချက်အရ အမြန်ဆောင်ရွက်ခဲ့ရသဖြင့် တည်ဆောက်ချိန် ကာလ(၂)နှစ် (၂)လဖြင့် ပြီးစီး ခဲ့ကြောင်း တင်ပြအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Oriental Highway Co.,Ltd. မှ B.O.T စနစ်ဖြင့် ဆောင်ရွက်လျက် ရှိသော လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံ၏ အဆိုပြုလွှာနှင့် ပတ်သက်၍ ကုမ္ပဏီမှ ပြန်လည်ပြင်ဆင် တင်ပြလာသော မနသ ပုံစံ-၁ နှင့် ရင်းနှီးမြှုပ်နှံမှုတွက်ချက်မှု ဇယား (၁) စုံတို့နှင့်အတူ ပူးတွဲပေးပို့အပ်ပါသည်။

၁၅/၂/၂၀၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
စိုးတင့်၊ ဒုတိယဝန်ကြီး

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ လမ်းဦးစီးဌာန ။



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၁၅ / ဌာနခွဲ - ၃ / ၂၀၁၆(စီ ၂၈၂)
ရက် စွဲ၊ ၂၀၁၆ခုနှစ် ဇန်နဝါရီလ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Oriental Highway Co.,Ltd.မှ B.O.T စနစ်ဖြင့် ဆောင်ရွက်လျက်ရှိသော လားရှိုးမြို့ရှောင်လမ်း (၁၅) မိုင် (၄) ဖာလုံအတွက် လုပ်ငန်းလုပ်ကိုင်ခွင့် အဆိုပြုလွှာတင်ပြခြင်း**

၁။ ရှမ်းပြည်နယ်(မြောက်ပိုင်း)အတွင်းရှိ လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံအား ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဒုတိယသမ္မတ ဒေါက်တာစိုင်းမောက်ခမ်း၏ ခရီးစဉ် လမ်းညွှန်ချက်အရ Oriental Highway Co.,Ltd. မှ ဖောက်လုပ်ခဲ့ပြီး ဆောက်လုပ်ရေးဝန်ကြီး ဌာနမှ မူလ B.O.T လမ်းပိုင်းဖြစ်သည့် မန္တလေး - လားရှိုး - မူဆယ် ပြည်ထောင်စုလမ်းမကြီးနှင့် ဆက်စပ်နေသည့်အတွက် B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုခဲ့ပါသည်။ အဆိုပါလမ်း၏ အဆိုပြုလွှာအား ကုမ္ပဏီမှ တင်ပြလာခြင်းအပေါ် လမ်းဦးစီးဌာနမှ စိစစ်၍ ပဋိညာဉ်စာချုပ်ပါ အချက်များအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အတူ ပြင်ဆင်ပြုစုပြီး ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ Oriental Highway Co.,Ltd. မှ B.O.T စနစ်ဖြင့် ဆောင်ရွက်လျက် ရှိသော လားရှိုးမြို့ရှောင်လမ်းသစ် (၁၅)မိုင် (၄)ဖာလုံ၏ အဆိုပြုလွှာအား မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့ ဆက်လက်တင်ပြနိုင်ရေးအတွက် ကုမ္ပဏီမှ တင်ပြလာသည့် အဆိုပြုလွှာ (၁)စုံ၊ ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ ပြန်ကြားလာသည့် စာမိတ္တူ (၁) စုံ တို့နှင့်အတူ ပူးတွဲပေးပို့အပ်ပါသည်။

၂၂/၁/၁၆

ကျော်လွင်
ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ လမ်းဦးစီးဌာန ။




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရှမ်းပြည်နယ်

စာအမှတ်၊ ၁၂၆၉ /၇-၃၁၁/အစရ(ရှမ်း)
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီလ ၃ ရက်

သို့

အင်ဂျင်နီယာမှူးကြီး
တွဲဖက်ပြည်နယ်အင်ဂျင်နီယာမှူးကြီးရုံး
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
လားရှိုးမြို့

အကြောင်းအရာ။ **လားရှိုးမြို့ရှောင်လမ်းပိုင်းအား B.O.T စနစ်ဖြင့် လမ်းနှင့် တံတားအသုံးပြုခကောက်ခံခွင့်လျှောက်ထားလာခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ တွဲဖက်ပြည်နယ်အင်ဂျင်နီယာမှူးကြီးရုံး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊လားရှိုးမြို့၏ (၂၁-၁-၂၀၁၅)ရက်စွဲပါစာအမှတ်၊ လငလမ်း-၂၁/၂၀၁၄-၂၀၁၅/ရှမ်း(မြောက်)/၁၆၁၀

နိုင်ငံတော်အကြီးအကဲ၏ လမ်းညွှန်ချက်အရ လားရှိုးမြို့ရှောင်လမ်းကို (၁၇-၁၀-၂၀၁၂)တွင်စတင်ဆောင်ရွက်ခဲ့ရာ စုစုပေါင်းအရှည် ၁၅မိုင် ၄ဖာလုံရှိပြီး မိုင်တိုင်အမှတ် ၉/၇တွင် ၂၂၀ပေ အရှည်ရှိ နမ့်ယော်ချောင်းကူး ကွန်ကရစ်တံတားသစ် တစ်စင်းထည့်သွင်း တည်ဆောက်ခဲ့ကြောင်း၊ လမ်းအစမှာ ပဒ္ဒလေး - လားရှိုး -မူဆယ် ပြည်ထောင်စုလမ်းမကြီး၏ မိုင်တိုင်အမှတ် ၁၆၉/၀ လမ်း၏ ဘယ်ဘက်မှ စတင်ခွဲထွက်ပြီး၊ လမ်းအဆုံးမှာ ပြည်ထောင်စုလမ်းမကြီး၏ မိုင်တိုင် ၁၈၃/၂ တွင်ပြန်ဆုံပါကြောင်း၊ ဓေးနင်းဂိတ်သည် မိုင်တိုင် ၁၄၇/၀မှ ၁၇၂/၀အထိ ၂၅မိုင် ကောက်ခံပါကြောင်း၊ သိန်းနီတိုးဂိတ်သည် မိုင်တိုင် ၁၉၇/၀မှ ၂၂၂/၀ အထိ ၂၅ မိုင် ကောက်ခံပါကြောင်း၊အေးရှားဝေါလ်ကုမ္ပဏီလီမိတက်မှ ဖောက်လုပ်ပြီးစီးသော လားရှိုးမြို့ရှောင်လမ်းတိုးဂိတ် အတွက် ကောက်ခံရမည့်လမ်းအပိုင်း စုစုပေါင်း (၂၆မိုင် ၂ဖာလုံ)နှင့် မိုင်တိုင် (၉/၇)နမ့်ယော်ချောင်းကူး အရှည် (၂၂၀)ပေရှိ ကွန်ကရစ်တံတား (၁)စင်းတို့အား B.O.T စနစ်ဖြင့် လမ်းနှင့် တံတားအသုံးပြုခ ကောက်ခံခွင့်ပြုပေးနိုင်ပါရန် လျှောက်ထားခြင်းအပေါ် ခွင့်ပြုပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် တင်ပြလာမှုအပေါ် ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ ပြည်နယ်ဝန်ကြီးချုပ်မှ "သဘောထားမှတ်ချက် ခွင့်ပြုပါ" ဟု မှတ်ချက်ဖြင့်ညွှန်ကြားထားပါသဖြင့် သိရှိလိုက်နာဆောင်ရွက်သွားရန် အကြောင်းကြားပါသည်။

၂၁/၂/၂၀၁၅

(စိုင်းနော်ခမ်း၊ လမ်းပန်းဆက်သွယ်ရေးဝန်ကြီး)
ရှမ်းပြည်နယ်အစိုးရအဖွဲ့

မိတ္တူကို

ရှမ်းပြည်နယ်ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ တောင်ကြီးမြို့
ရှမ်းပြည်နယ်ဒုတိယအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ လားရှိုးမြို့
အေးရှားဝေါလ်ကုမ္ပဏီလီမိတက်
ရုံးလက်ခံ/မျှောစာတွဲ ၁/၁၆၉၄

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
လမ်းဦးစီးဌာန
(စီမံရေး)

စာအမှတ်၊ ပုဂ္ဂလိက/ ဘီအိုတီ/ OH/ ၂၀၁၅-၂၀၁၆/ ၄၉
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ( ၈ ) ရက်

အကြောင်းအရာ။ **B.O.T စနစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုခြင်း**

ရည် ညွှန်း ချက် ။ ဒါရိုက်တာ၊ Oriental Highway Co.,Ltd. ၏ (၁၅.၁၀.၂၀၁၅) ရက်စွဲပါစာအမှတ်၊ OHC/Lasho Rd-BOT/MIC/2015

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ Oriental Highway Co.,Ltd. မှ B.O.T စနစ်ဖြင့် ဆောင်ရွက်လျက်ရှိသော မန္တလေး-လားရှိုး-မူဆယ်-နမ့်ခမ်းလမ်းနှင့် ဆက်စပ်နေသည့် လားရှိုးမြို့ရှောင်လမ်း (၁၅) မိုင် (၄) ဖာလုံအား ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ဒုတိယသမ္မတ ဒေါက်တာစိုင်းမောက်ခမ်း၏ ခရီးစဉ် လမ်းညွှန်ချက်အရ ဖောက်လုပ် ဆောင်ရွက်ခဲ့ရာ လမ်းဖောက်လုပ်ပြီးစီး၍ B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းစာ ဖြင့် တင်ပြလာခြင်းအပေါ် (၂၅.၁၁.၂၀၁၅) နေ့တွင် ပြုလုပ်သည့် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေးအမှတ်စဉ် (၄၂/၂၀၁၅) တွင် တင်ပြခဲ့ရာ B.O.T စနစ်ဖြင့် လုပ်ကိုင်ခွင့်ပြုရန် သဘောတူ ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေး ဆုံးဖြတ်ချက်အရ လားရှိုးမြို့ရှောင်လမ်းအား B.O.T စနစ်ဖြင့် ဆက်လက် လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုကြောင်းအား သိရှိနိုင်ရန် အကြောင်းကြားပါသည်။

၈.၁၂.၁၅
(ဝင်းဖေ)
ညွှန်ကြားရေးမှူးချုပ်

<u>မန်နေးဂျင်းဒါရိုက်တာ</u>
<u>Oriental Highway Co,Ltd.</u>

မိတ္တူကို - ဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန
- ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ တောင်ကြီးမြို့။
- ညွှန်ကြားရေးမှူးချုပ် (ရုံး)၊ လမ်းဦးစီးဌာန

- ဒု-ညွှန်ကြားရေးမှူးချုပ် (စီမံရေး/ တည်ဆောက်ရေး/ လမ်းထိန်းသိမ်းရေး)၊
  လမ်းဦးစီးဌာန
- အင်ဂျင်နီယာချုပ် (စီမံရေး)၊ လမ်းဦးစီးဌာန
- ညွှန်ကြားရေးမှူး၊ လမ်းအခွန်ထိန်းသိမ်းရေးဌာနခွဲ၊ လမ်းဦးစီးဌာန
- ညွှန်ကြားရေးမှူး(မြို့ပြ)၊ ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ လမ်းဦးစီးဌာန၊ လားရှိုးမြို့။
- ရုံးလက်ခံ
- မျှောစာတွဲ




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ဆောက်လုပ်ရေးဝန်ကြီးဌာန

## လမ်းဦးစီးဌာန

## လမ်းအခွန်ထိန်းသိမ်းရေးဌာနခွဲ

စာအမှတ်၊ ၆၈၃/B.O.T/ကုမ္ပဏီ(ORIENTALHIGHWAY)/၂၀၁၅/ထုတ်(၃)
ရက် စွဲ ၊ ၂၀၁၅ ခုနှစ် ၊ ဩဂုတ်လ ၁၈ ရက်

သို့

မန်နေးဂျင်းဒါရိုက်တာ
ORIENTAL HIGHWAY COMPANY LIMITED

အကြောင်းအရာ။ **လားရှိုးမြို့ရှောင်လမ်းအပိုင်း လမ်းအသုံးပြုခ ကောက်ခံရရှိသည့် ဝင်ငွေမှ ပထမ (၃) နှစ်ကို ကင်းလွတ်ခွင့်ပြုပေးနိုင်ပါရန်ကိစ္စ**

ရည် ညွှန်း ချက် ။ ORIENTAL HIGHWAY COMPANY LIMITED ၏ (၂၉.၇.၂၀၁၅) ရက်စွဲပါစာအမှတ်၊ OHC/PRJ-145/15

၁။ ORIENTAL HIGHWAY COMPANY LIMITED မှ B.O.T စနစ်ဖြင့် ဆောင်ရွက်လျက်ရှိနေသည့် လားရှိုး-မူဆယ်ပြည်ထောင်စုလမ်းမကြီးတွင် အရှည်မိုင် (၁၅ မိုင် ၄ ဖာလုံ) ရှိ လားရှိုးမြို့ရှောင်လမ်းသစ်ကို လမ်းညွှန်ချက်များနှင့်အညီ ဖောက်လုပ်ခဲ့ရာ (၂၄.၁၂.၂၀၁၄) ရက်နေ့တွင် ပြီးစီးခဲ့ပြီး (၁၁.၁.၂၀၁၅) ရက်နေ့မှစ၍ B.O.T လမ်းအသုံးပြုခကောက်ခံနှုန်းဖြင့် ကောက်ခံလျက်ရှိပါသည်။

၂။ ORIENTAL HIGHWAY COMPANY LIMITED အနေဖြင့် လားရှိုးမြို့ရှောင်လမ်းသစ်အား ငွေကျပ်သန်းပေါင်း (၁၉၈၂၂.၉၄၃) ကို သုံးစွဲရင်းနှီးမြှုပ်နှံလျက်ရှိသည့်အပြင် သိန္နီ-ကွမ်းလုံ-ချင်းရွှေဟော်လမ်းမကြီးကိုလည်း လမ်းအကျယ်တိုးချဲ့လျက် နိုင်လွန်ကတ္တရာလမ်းအသစ်အဖြစ်အဆင့်မြှင့်တင်ဖောက်လုပ်ခဲ့ခြင်းနှင့် ပြင်ဦးလွင်မြို့ရှောင်လမ်းသစ်ဖောက်လုပ်ခြင်းတို့တွင် ငွေကြေးအမြောက်အများရင်းနှီးမြှုပ်နှံရပါသဖြင့် လားရှိုးမြို့ရှောင်လမ်းသစ်၏ လမ်းအသုံးပြုခကောက်ခံရရှိငွေမှ ဌာနသို့ရာခိုင်နှုန်းအရ ပေးသွင်းရမှုကို ပထမ (၃) နှစ်အား ကင်းလွတ်ခွင့်ပြုပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ ORIENTAL HIGHWAY COMPANY LIMITED အနေဖြင့် လားရှိုးမြို့ရှောင်လမ်းသစ်ဖောက်လုပ်ခြင်းလုပ်ငန်းအား B.O.T လုပ်ငန်းလုပ်ထုံးလုပ်နည်းများနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံးသို့ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအသစ်အဖြစ်တင်ပြ၍ ခွင့်ပြုမိန့်ရရှိရေး ဆက်လက်ဆောင်ရွက်သွားရန် အကြောင်းကြားပါသည်။

၁၈ ၊ ၈ ၊ ၂၀၁၅

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(မြင့်မောင်ဝင်း၊ အထွေထွေမန်နေဂျာ)
လမ်းအခွန်ထိန်းသိမ်းရေးဌာနခွဲ

မိတ္တူကို

- ဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန။
- ညွှန်ကြားရေးမှူးချုပ်၊ လမ်းဦးစီးဌာန။
- ဒုတိယညွှန်ကြားရေးမှူးချုပ် (စီမံရေး)၊ လမ်းဦးစီးဌာန။
- ရုံးလက်ခံ/မျှောစာတွဲ။



တွဲဖက်ပြည်နယ်အင်ဂျင်နီယာမှူးကြီးရုံး
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
ရှမ်းပြည်နယ် ( မြောက်ပိုင်း )၊ လားရှိုးမြို့
စာအမှတ်၊ ၅၃၁/ ၂၀၁၂- ၂၀၁၃/ရှမ်း(မြောက်)/၇၃၆
ရက်စွဲ ၊ ၂၀၁၂ ခုနှစ် ၊ဇွန်လ ၂၅ ရက်

သို့

ပြည်နယ်ဝန်ကြီးချုပ်
ရှမ်းပြည်နယ်အစိုးရအဖွဲ့
တောင်ကြီးမြို့

အကြောင်းအရာ၊ **လားရှိုးမြို့၊ မြို့ရှောင်လမ်း လမ်းသစ်ဖောက်လုပ်မည့် စီမံချက်တင်ပြခြင်း**

၁။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဒုတိယသမ္မတ ဒေါက်တာစိုင်းမောက်ခမ်း၏ ၁၃-၁၂-၂၀၁၁ ရက်နေ့မှ ၁၇-၁၂-၂၀၁၁ ရက်နေ့ထိနှင့် ၂၀-၂-၂၀၁၂ ရက်နေ့မှ ၂၅-၂-၂၀၁၂ ရက်နေ့ထိ ရှမ်းပြည်နယ် (မြောက်ပိုင်း)နယ်မြေခရီးစဉ်အတွင်း မန္တလေး-လားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီးအား လားရှိုးမြို့ကို ရှောင်ကွင်းသွားလာနိုင်သည့် လားရှိုးမြို့၊ မြို့ရှောင်လမ်း ဖောက်လုပ်ရန် လမ်းညွှန်ချက်အရ လမ်းဘူကြောင်းသစ်ရှာဖွေတိုင်းတာပြီး ပြည်ထောင်စုဝန်ကြီးနှင့် ပြည်နယ်ဝန်ကြီးချုပ်တို့အား တင်ပြထားပြီးဖြစ်ပါသည်။

၂။ အထက်ပါလားရှိုးမြို့ရှောင်လမ်းနှင့်ပတ်သက်၍ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီး၏ လမ်းညွှန်ချက်အရ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)၊ ဦးဆောင်ညွှန်ကြားရေးမှူးမှ အေးရှားဝေါလ်ကုမ္ပဏီလီမိတက်၊ ရှမ်းပြည်နယ် (မြောက်ပိုင်း)မှ အထွေထွေ မန်နေဂျာ၊ ဒေါ်နန်းကြာလီအား ၂၂-၆-၂၀၁၂ ရက်နေ့ နံနက် (၀၈:၃၀)နာရီချိန် နေပြည်တော်သို့ ခေါ်ယူတွေ့ဆုံ၍ လားရှိုးမြို့၊ မြို့ရှောင်လမ်းသစ်အား အေးရှားဝေါလ်ကုမ္ပဏီလီမိတက်မှ တာဝန်ယူ၍ အကောင်အထည်ဖော် ဆောင်ရွက်ရန်နှင့် ကုန်ကျစရိတ်များပြားမည်ဖြစ်၍ စီမံချက်ကာလ (၅)နှစ်ဖြင့် ဆောင်ရွက်ရန်လမ်းညွှန်ခဲ့ပါသည်။

၃။ အေးရှားဝေါလ်ကုမ္ပဏီလီမိတက်မှ လားရှိုးမြို့၊ မြို့ရှောင်လမ်းသစ်အား စီမံကိန်းကာလ (၃)နှစ် လျာထား၍ လုပ်ငန်းစီမံချက်ရေးဆွဲလျက်ရှိပါသည်။

၄။ သို့ဖြစ်ပါ၍ လားရှိုးမြို့၊ မြို့ရှောင်လမ်းသစ် ဖောက်လုပ်ခြင်းအား ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)မှ အေးရှားဝေါလ်ကုမ္ပဏီလီမိတက်နှင့် ညှိနှိုင်းဆွေးနွေးဆောင်ရွက်နေမှုအခြေအနေအား သိရှိနိုင်ပါရန် တင်ပြအပ်ပါသည်။

(စိုင်းငေကျော်မိုး)
အင်ဂျင်နီယာမှူးကြီး

မိတ္တူကို -

- ပြည်နယ်လမ်းပန်းဆက်သွယ်ရေးဝန်ကြီး၊ ရှမ်းပြည်နယ်အစိုးရအဖွဲ့ တောင်ကြီးမြို့။
- ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)၊ နေပြည်တော်။
- အထွေထွေမန်နေဂျာ၊ အေးရှားဝေါလ်ကုမ္ပဏီလီမိတက်၊ ကျောက်မဲမြို့။
- ရုံးလက်ခံ/မျှောစာတွဲ။




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**ပြည်နယ်အစိုးရအဖွဲ့**
**ရှမ်းပြည်နယ်**

စာအမှတ်၊ ၁၂၆၉ /၇-၃၁၁/အစရ(ရှမ်း)
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီလ ၄ ရက်

သို့
/အင်ဂျင်နီယာမှူးကြီး
**တွဲဖက်ပြည်နယ်အင်ဂျင်နီယာမှူးကြီးရုံး**
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
လားရှိုးမြို့

အကြောင်းအရာ။ **လားရှိုးမြို့ရှောင်လမ်းပိုင်းအား B.O.T စနစ်ဖြင့် လမ်းနှင့် တံတားအသုံးပြုခကောက်ခံခွင့်လျှောက်ထားလာခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ တွဲဖက်ပြည်နယ်အင်ဂျင်နီယာမှူးကြီးရုံး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊လားရှိုးမြို့၏ (၂၁-၁-၂၀၁၅)ရက်စွဲပါစာအမှတ်၊ လငလမ်း-၂၁/၂၀၁၄-၂၀၁၅/ရှမ်း(မြောက်)/ ၁၆၁၀

နိုင်ငံတော်အကြီးအကဲ၏ လမ်းညွှန်ချက်အရ လားရှိုးမြို့ရှောင်လမ်းကို (၁၇-၁၀-၂၀၁၂)တွင်စတင်ဆောင်ရွက်ခဲ့ရာ စုစုပေါင်းအရှည် ၁၅မိုင် ၄ဖာလုံရှိပြီး မိုင်တိုင်အမှတ် ၉/၇တွင် ၂၂၀ပေ အရှည်ရှိ နမ့်ယော်ချောင်းကူး ကွန်ကရစ်တံတားသစ် တစ်စင်းတည့်ဘွင်း တည်ဆောက်ခဲ့ကြောင်း၊ လမ်းအစမှာ ပန္နလေး- လားရှိုး- ဆယ် ပြည်ထောင်စုလမ်းမကြီး၏ မိုင်တိုင်အမှတ် ၁၆၉/၀ လမ်း၏ ဘယ်ဘက်မှ စတင်ခွဲထွက်ပြီး၊ လမ်းအဆုံးမှာ ပြည်ထောင်စုလမ်းမကြီး၏ မိုင်တိုင် ၁၈၃/၂ တွင်ပြန်ဆုံပါကြောင်း၊ ခေးနင်းဂိတ်သည် မိုင်တိုင် ၁၄၇/၀မှ ၁၇၂/၀အထိ ၂၅မိုင် ကောက်ခံပါကြောင်း၊ သိန်နီတိုးဂိတ်သည် မိုင်တိုင် ၁၉၇/၀မှ ၂၂၂/၀ အထိ ၂၅ မိုင် ကောက်ခံပါကြောင်း၊အေးရှားဝေါလ်ကုမ္ပဏီလီမိတက်မှ ဖောက်လုပ်ပြီးစီးသော လားရှိုးမြို့ရှောင်လမ်းတိုးဂိတ် အတွက် ကောက်ခံရမည့်လမ်းအပိုင်း စုစုပေါင်း(၂၆မိုင် ၂ဖာလုံ)နှင့် မိုင်တိုင် (၉/၇)နမ့်ယော်ချောင်းကူး အရှည် (၂၂၀)ပေရှိ ကွန်ကရစ်တံတား(၁)စင်းတို့အား B.O.T စနစ်ဖြင့် လမ်းနှင့် တံတားအသုံးပြုခ ကောက်ခံခွင့်ပြုပေးနိုင်ပါရန် လျှောက်ထားခြင်းအပေါ် ခွင့်ပြုပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် တင်ပြလာမှုအပေါ် ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ ပြည်နယ်ဝန်ကြီးချုပ်မှ **"သဘောထားမှတ်ချက် ခွင့်ပြုပါ"** ဟု မှတ်ချက်ပြုညွှန်ကြားထားပါသဖြင့် သိရှိလိုက်နာဆောင်ရွက်သွားရန် အကြောင်းကြားပါသည်။

2/2/2019

(စိုင်းနော်ခမ်း၊ လမ်းပန်းဆက်သွယ်ရေးဝန်ကြီး)
ရှမ်းပြည်နယ်အစိုးရအဖွဲ့

မိတ္တူကို
ရှမ်းပြည်နယ်ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ တောင်ကြီးမြို့
ရှမ်းပြည်နယ်ဒုတိယအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ လားရှိုးမြို့
အေးရှားဝေါလ်ကုမ္ပဏီလီမိတက်
ရုံးလက်ခံ/မျှောစာတွဲ

၁/၁၆၉၄




# ORIENTAL HIGHWAY COMPANY LIMITED

NO.45-46, BAHOSI HOUSING COMPLEX, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL: (95-1) 229421, 229425, FAX: (95-1) 228012, 214637

စာအမှတ်။OHC/LashoRd –BOT/MIC /2015
ရက်စွဲ ။ ၂၁ - ၀၁ - ၂၀၁၆

သို့
ပြည်ထောင်စုဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ ။လားရှိုးမြို့ရှောင်လမ်းသစ်စီမံကိန်းကို B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်၊

ရည်ညွှန်းချက် ။ (၁)ရှမ်းပြည်နယ်(မြောက်ပိုင်း) တွဲဖက်ပြည်နယ်အင်ဂျင်နီယာမှူးကြီးရုံး၏ ၂၅-၉-၂၀၁၂ ရက်စွဲပါစာအမှတ်-ညွှန်း-၁/၂၀၁၂-၂၀၁၃/ရှမ်း(မြောက်)/၇၃၆
(၂) လမ်းသုတေသန၏(၃၁-၁-၁၃)စာအမှတ်၃၉၀/အစိရင်ခံစယ(AC-MIX)/လ်းသု/၂၀၁၂-၂၀၁၃
(၃)လမ်းဦးစီးဌာန၏(၁၈-၈-၁၅)စာအမှတ်-၆၈၃/B.O.T/ကုမ္ပဏီ(ORIENTALHIGHWAY)/၂၀၁၅/ထုတ်(၃)

၁။ ကျွန်တော်များကုမ္ပဏီအနေဖြင့် အရှည်(၁၅/၄)မိုင်ရှိသည့် လားရှိုးမြို့ ရှောင်လမ်းသစ် စီမံကိန်းကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ဒုတိယသမ္မတ ဒေါက်တာစိုင်းမောက်ခမ်း၏ ရှမ်းပြည် နယ်(မြောက်ပိုင်း)ခရီးစဉ်တို့တွင်ဖေါက်လုပ်ရန် ရည်ညွှန်း(၁)ပါအရလည်းကောင်း၊ ရည်ညွှန်း(၂)ပါ လမ်းဒီဇိုင်းပုံစံများနှင့်အညီ ခေတ်မီနည်းစနစ်ဖြင့် Cement Stabilized Gravel ကို အသုံးပြုလျှက် နိုင်လွန်ကတ္တရာလမ်းအဖြစ် လမ်းသစ်ဖေါက်လုပ်ပြီး၊ ရည်ညွှန်း(၃)ပါအရ B.O.T စနစ်ဖြင့် ပဋိညာဉ်စာချုပ် ချုပ်ဆိုလျှက် လမ်း-တံတားအသုံးပြုခ ကောက်ခံသည့်လုပ်ငန်းအတွက် မြန်မာနိုင်ငံနိုးမြှပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ခွင့်ပြုမိန့် ရရှိရေးအတွက် အဆိုပြု တင်ပြခြင်းဖြစ်ပါသည်။

၂။ အဆိုပြုလမ်းစီမံကိန်းအတွက် စီမံကိန်းလမ်း၏ ကျေးရွာများအတွင်း ဖြတ်သန်းသည့် လမ်းနယ်နိမိတ်ကို ဌာနမှသတ်မှတ်သည့် လမ်းအကျယ်အတိုင်း လည်းကောင်း၊မြို့နယ်များအတွင်းတွင် မြို့နယ်စည်ပင်သာယာရေးကော်မတီအဖွဲ့၏ လမ်းနယ် နိမိတ်အတိုင်း ဆောင်ရွက်သွားပါမည်။

၃။ အဆိုပြုပါလမ်းစီမံကိန်းအတွက် ကျွန်တော်များကုမ္ပဏီအနေဖြင့် ကျပ်သန်းပေါင်း (၁၇၄၀၇.၇၄) နှင့် နိုင်ငံခြားငွေ အမေရိ ကန်ဒေါ်လာ ၂.၇၉၅ သန်းကို ရင်းနှီးမြှုပ်နှံသုံးစွဲသွားပါမည်။

၄။ အဆိုပြုလုပ်ငန်း၏ လမ်း-တံတား အသုံးပြုခကောက်ခံမည့်ဂိတ်မှ ကောက်ခံရရှိသည့် ငွေအပေါ် နိုင်ငံတော်သို့ ပေးသွင်းရမည့် နှုန်းထားများတို့နှင့် ပတ်သက်၍ ပဋိညာဉ်စာချုပ်တွင်ထည့်သွင်းဖေါ်ပြပြီး၊ သက်ဆိုင်ရာအာဏာပိုင်အဖွဲ့စည်း အသီးသီးသို့ တင်ပြခွင့်ပြုချက်များ ရယူသွားမည်ဖြစ်ပါသည်။

၅။ ကျွန်တော်များကုမ္ပဏီ၏ အဆိုပြုတင်ပြသည့် လုပ်ငန်းအား ဝန်ကြီးဌာနမှ မူအားဖြင့် သဘောတူခွင့်ပြုပါက အဆိုပြုချက်ကို မြန်မာနိုင်ငံနိုးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုချက် ရရှိရေးအတွက် ဆက်လက်တင်ပြ ပေးနိုင်ပါရန် လေးစားစွာ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

THAN MYINT
MANAGING DIRECTOR
ORIENTAL HIGHWAY CO., LTD.




# ORIENTAL HIGHWAY COMPANY LIMITED

NO.45-46, BAHOSI HOUSING COMPLEX, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL: (95-1) 229421, 229425, FAX: (95-1) 228012, 214637


စာအမှတ်။ OHC/LashoRd/MIC/2015
ရက်စွဲ ။ ၂၁ -၀၁ - ၂၀၁၆

သို့

ဥက္ကဋ္ဌ
မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ။ လားရှိုးမြို့ရှောင်လမ်းသစ်စီမံကိန်းကို **B.O.T** စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်ကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့် နှင့် ဥပဒေအခန်း (၁၁)ပါ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ အတွက် အဆိုပြုတင်ပြချက်၊

ရည်ညွှန်းချက် ။ (၁) ဆောက်လုပ်ရေးဝန်ကြီးဌာန၊ လမ်းဦးစီးဌာန၏
(က)(၁၈-၈-၁၅)စာအမှတ်-၆၈၃/B.O.T/ကုမ္ပဏီ(ORIENTALHIGHWAY)/၂၀၁၅/ထုတ်(၃)
(ခ) လမ်းဦးစီးဌာန(စီမံရေး)၏(၂၇-၁၀-၁၅)စာအမှတ်-ပုဂ္ဂလိက/B.O.T/OH/၂၀၁၅-၂၀၁၆/၁၉
(၂) ကုမ္ပဏီမှ ဝန်ကြီးဌာနသို့ (၁၅-၁၀-၂၀၁၅)နှင့် (၁၃-၁၁-၂၀၁၅)ရက်စွဲပါ အဆိုပြုချက်

၁။ ကျွန်တော်များကုမ္ပဏီသည် လားရှိုးမြို့ ရှောင်လမ်းသစ် အရှည်မိုင် (၁၅/၄)မိုင်ရှိ လမ်းစီမံကိန်းကို ရည်ညွှန်းချက်(၂)ဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ အဆိုပြုတင်ပြပါရှိသည့်အတိုင်း B.O.T စနစ်ဖြင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းလုပ်ကိုင် လိုပါသဖြင့် အဆိုပြု တင်ပြအပ်ပါသည်။

၂။ အဆိုပြုလမ်းစီမံကိန်းသည် လမ်းဦးကြောင်း အသစ်ဖေါက်လုပ်ခြင်း၊ Cement Stabilized Gravel ကို အသုံးပြုလျှက် အကျယ် ၃၂ ပေ ရှိ နိုင်လွန်ကတ္တရာလမ်း အဖြစ် ဖေါက်လုပ်ခြင်း၊ပေ ၂၂၀ရှိ တံတား တစ်စင်း၊ (၆ပေမှ၂၀ပေအကျယ်)ရှိ တံတား(၃၉)စင်းတို့ကို RCC Bridges များ တည်ဆောက် ခြင်း၊ Box Culvert / Retaining Wall/ Pucca Drin တို့ကို တည်ဆောက်ခြင်း စသည့် လုပ်ငန်းစီမံကိန်းများကို အကောင်အထည်ဖေါ်ရခြင်းတို့ကြောင့် စီမံကိန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ ကျပ်သန်းပေါင်း (၁၇၄၀၇.၇၄) နှင့် နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ (၂.၇၉၅)သန်း ဖြစ်ပါသည်။ စီမံကိန်းအတွက် လိုအပ်သည့် ကုန်ကြမ်းနှင့်စက်ပစ္စည်းကရိယာများကို စီးပွား/ကူသန်းဝန်ကြီးဌာနသို့ Normal System ဖြင့် သွင်းကုန်လိုင်စင် ခွင့်ပြုချက်ရယူပြီးမှ တင်သွင်းအသုံးပြုသွားမည်ဖြစ်ပါသည်။

၃။ အဆိုပြုလုပ်ငန်းကို ဆောက်လုပ်ရေးဝန်ကြီးဌာနနှင့် ပဋိညာဉ်စာချုပ် ချုပ်ဆိုပြီးလည်းကောင်း၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်ဖြင့်လည်းကောင်း၊ နှစ်ပေါင်း(၄၅) လုပ်ငန်း လုပ်ကိုင်ခွင့်နှင့် အဆိုပါလုပ်ငန်းကာလပြည့်ပြီးနောက် ဆက်လက် လုပ်ငန်းလုပ်ကိုင်ခွင့်ကို (၁၀)နှစ် (၁)ကြိမ် သက်တမ်း တိုးမြှင့်၍ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် အဆိုပြုအပ်ပါသည်။




# ORIENTAL HIGHWAY COMPANY LIMITED

NO.45-46, BAHOSI HOUSING COMPLEX, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL: (95-1) 229421, 229425, FAX: (95-1) 228012, 214637

၄။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏများပြားခြင်း၊ နိုင်ငံတော်သို့ ပေးသွင်းရမည့် ဝင်ငွေခွန်နှင့် ဌာနသို့ ဝင်ငွေအပေါ် နှစ်အလိုက် ပေးသွင်းရမည့် ရာခိုင်နှုန်းထားများ စသည့်အခြေအနေနှင့် ငွေကြေးဆိုင်ရာစာရင်း ဇယားတွက်ချက်မှုများအရ အရင်းကြေကာလမှ (၂၁)နှစ်၊(၅)လ ဖြစ်ပြီး၊ Rate of Return ( IRR )မှာ (၄. ၃၆)% ဖြစ်ပါသည်။ စီမံကိန်းလုပ်ငန်းမှ ရရှိလာမည့် အကျိုးအမြတ်ကို ပြည်တွင်း၌ နိုင်ငံတော်အစိုးရမှ ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။

၅။ ကျွန်တော်များ ကုမ္ပဏီမှ အဆိုပြုသည့်လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ရရှိပြီးပါက အဆိုပြုသည့်လုပ်ငန်းအတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၁) ပုဒ်မ ၂၀ ပါ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့်ရရှိရေးအတွက် ဘဏ္ဍာရေးဝန်ကြီးဌာနသို့ တင်ပြလျှောက်ထားခွင့်ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

၆။ ကျွန်တော်များကုမ္ပဏီမှ အဆိုပြုတင်ပြချက်နှင့်အတူ အောက်ဖော်ပြပါ စာရွက်စာတမ်း အထောက် အထားများကို ပူးတွဲတင်ပြ အပ်ပါသည်-

(၁) ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက် (မနသ-ပုံစံ)
(၂) လုပ်ငန်းစီမံကိန်းနှင့် ငွေကြေးဆိုင်းရာအထောက်အထား
(၃) အဆိုပြုလုပ်ငန်းအတွက် B.O.T ပဋိညာဉ်စာချုပ်
(၄) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းနှင့် အထောက်အထားများ။
(၅) ဘဏ္ဍာရေးဆိုင်ရာ အချက်အလက်များနှင့်ပတ်သက်၍ တွက်ချက်မှုစာရင်းဇယားများ။

၇။ သို့ဖြစ်ပါ၍ ကျွန်တော်များကုမ္ပဏီမှ အဆိုပြုတင်ပြအပေါ် လက်ခံခွင့်ပြုပေးနိုင်ပါရန်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့်ပြုပေးနိုင်ပါရန် ကိုလည်းကောင်း၊ ခွင့်ပြုမိန့် ထုတ်ပေးနိုင်ပါရန်ကိုလည်းကောင်း ရိုသေလေးစားစွာ အဆိုပြုတင်ပြ အပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

THAN MYINT
MANAGING DIRECTOR
ORIENTAL HIGHWAY CO., LTD.





# ORIENTAL HIGHWAY COMPANY LIMITED

NO.45-46, BAHOSI HOUSING COMPLEX, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL: (95-1) 229421, 229425, FAX: (95-1) 228012, 214637


စာအမှတ်။ OHC/LashoRd/MIC/2015
ရက်စွဲ ။ ၂၁ - ၀၁ - ၂၀၁၆

သို့

ဥက္ကဋ္ဌ
မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြချက်ကို ခွင့်ပြုပေးနိုင်ပါရန် တင်ပြချက်။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ဒုတိယသမ္မတ ဒေါက်တာစိုင်းမောက်ခမ်း၏ ၂၀၁၁ခုနှစ်၊ဒီဇင်ဘာလနှင့် ၂၀၁၂ခုနှစ်၊ဖေဖော်ဝါရီလ ရှမ်းပြည်နယ်(မြောက်ပိုင်း)ခရီးစဉ်တို့တွင် လားရှိုးမြို့ရှောင်လမ်းသစ်စီမံကိန်း(၁၅/၄)မိုင်ကို ဖေါက်လုပ်ရန် လမ်းညွှန်ချက်နှင့်အညီ ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ပုံထုတ်ပေးခဲ့သည့် လမ်းဒီဇိုင်းနှင့်အညီ ကျွန်တော်များ Oriental Highway Co.,Ltd မှ ခေတ်မီ နည်းစနစ်ဖြင့် Cement Stabilized Gravel ကို အသုံးပြုလျှက်နိုင်လွန်ကတ္တရာလမ်း အဖြစ် လမ်းသစ်ဖေါက်လုပ်ပြီး၊ လမ်း-တံတားအသုံးပြုခ ကောက်ခံသည့် လုပ်ငန်းအတွက် မြန်မာနိုင်ငံနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်လျှောက် ထားသည့် ကုမ္ပဏီဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ ကျွန်တော်များကုမ္ပဏီ၏ အဆိုပြုတင်ပြချက်ကို ခွင့်ပြုပေးနိုင်ပါရန် လျှောက်ထားအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

THAN MYINT
MANAGING DIRECTOR
ORIENTAL HIGHWAY CO., LTD.




# ORIENTAL HIGHWAY COMPANY LIMITED

NO.45-46, BAHOSI HOUSING COMPLEX, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL: (95-1) 229421, 229425, FAX: (95-1) 228012, 214637


စာအမှတ်။ OHC/LashoRd/MIC/2015

ရက်စွဲ ။ ၂၁ - ၀၁ - ၂၀၁၆

သို့

ဥက္ကဋ္ဌ

မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြချက်ကို ခွင့်ပြုပေးနိုင်ပါရန် တင်ပြချက်။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ လားရှိုးမြို့ရှောင်လမ်းသစ်စီမံကိန်း(၁၅/၄)မိုင်ကို ကျွန်တော်များ Oriental Highway Co.,Ltd မှ ခေတ်မီ နည်းစနစ်ဖြင့် Cement Stabilized Gravel ကို အသုံးပြုလျှက် နိုင်လွန်ကတ္တရာလမ်းအဖြစ် လမ်းသစ်ဖေါက်လုပ်ပြီး၊ လမ်း-တံတားအသုံးပြုခ ကောက်ခံသည့်လုပ်ငန်းအတွက် မြန်မာနိုင်ငံနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက် ထားသည့် ကုမ္ပဏီဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်း၏ လမ်း-တံတားအသုံးပြုခကောက်ခံသည့် လုပ်ငန်းတွင် ဝန်ထမ်းများ ခန့်ထားခြင်းအတွက် ဝင်ငွေခွန် ဥပဒေနှင့်အညီ ပေးသွင်းရမည့် ဝင်ငွေခွန်ကို ယင်းတို့၏ လစာမှ ထုတ်နှုတ်၍ ပြည်တွင်းအခွန်များဦးစီးဌာနသို့ ပေးသွင်း သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြု အပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

THAN MYINT
MANAGING DIRECTOR
ORIENTAL HIGHWAY CO., LTD.




# ORIENTAL HIGHWAY COMPANY LIMITED

NO.45-46, BAHOSI HOUSING COMPLEX, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL: (95-1) 229421, 229425, FAX: (95-1) 228012, 214637


စာအမှတ်။ OHC/LashoRd/MIC/2015

ရက်စွဲ ။ ၂၁ - ၀၁ - ၂၀၁၆

သို့

ဥက္ကဌ

မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြချက်ကို ခွင့်ပြုပေးနိုင်ပါရန် တင်ပြချက်။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ လားရှိုးမြို့ရှောင်လမ်းသစ်စီမံကိန်း(၁၅/၄)မိုင်ကို ကျွန်တော်များ Oriental Highway Co.,Ltd မှ ခေတ်မီ နည်းစနစ်ဖြင့် Cement Stabilized Gravel ကို အသုံးပြုလျှက် နိုင်လွန်ကတ္တရာလမ်းအဖြစ် လမ်းသစ်ဖေါက်လုပ်ပြီး၊ လမ်း-တံတားအသုံးပြုခ ကောက်ခံသည့်လုပ်ငန်းအတွက် မြန်မာနိုင်ငံနီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက် ထားသည့် ကုမ္ပဏီဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်း၏ လမ်း-တံတားအသုံးပြုခကောက်ခံသည့် လုပ်ငန်းဆောင်ရွက်ရာတွင် ဖြစ်ပေါ်လာမည့် အသားတင်အမြတ်မှ တစ်(၁)ရာခိုင်နှုန်းအား ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ကိစ္စရပ်များတွင် အသုံးပြုရန်အတွက် ဖယ်ချန်လျှက် ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြု အပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

THAN MYINT
MANAGING DIRECTOR
ORIENTAL HIGHWAY CO., LTD.




# ORIENTAL HIGHWAY COMPANY LIMITED

NO.45-46, BAHOSI HOUSING COMPLEX, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL: (95-1) 229421, 229425, FAX: (95-1) 228012, 214637


စာအမှတ်။ OHC/LashoRd/MIC/2015
ရက်စွဲ ။ ၂၁ - ၀၁ - ၂၀၁၆

သို့

ဥက္ကဋ္ဌ
မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြချက်ကို ခွင့်ပြုပေးနိုင်ပါရန် တင်ပြချက်။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ လားရှိုးမြို့ရှောင်လမ်းသစ်စီမံကိန်း(၁၅/၄)မိုင်ကို ကျွန်တော်များ Oriental Highway Co.,Ltd မှ ခေတ်မီ နည်းစနစ်ဖြင့် Cement Stabilized Gravel ကို အသုံးပြုလျှက် နိုင်လွန်ကတ္တရာလမ်းအဖြစ် လမ်းသစ်ဖေါက်လုပ်ပြီး၊ လမ်း-တံတားအသုံးပြုခ ကောက်ခံသည့်လုပ်ငန်းအတွက် မြန်မာနိုင်ငံနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက် ထားသည့် ကုမ္ပဏီဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ရေးနှင့် ထိခိုက်မှု မရှိစေရေးအတွက်နှင့် မီးဘေးအန္တရယ်တို့အတွက် ကြိုတင် ကာကွယ် ပြင်ဆင်မှု လုပ်ငန်းဆောင်တာများကို ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

၃။ ထို့အပြင် အဆိုပြုလုပ်ငန်းကို နိုင်ငံတော်အစိုးရမှ ချမှတ်ထားသည့် ဥပဒေ စည်းမျဉ်းစည်းကမ်းများ၊ လမ်း-တံတားများ ဖေါက်လုပ်တည်ဆောက်ရာတွင် လိုက်နာရမည့် စည်းကမ်းသတ်မှတ်ချက်များ၊စံနှုန်းများနှင့် အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

၄။ အဆိုပြုလုပ်ငန်းသည် လုပ်ငန်းသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

THAN MYINT
MANAGING DIRECTOR
ORIENTAL HIGHWAY CO., LTD.

**၁။ မြေထုပတ်ဝန်းကျင်အပေါ် သက်ရောက်မှု**

မြို့ရှောင်လမ်းလုပ်ငန်း ဆောင်ရွက်ခဲ့မှုကြောင့် စီမံကိန်းလမ်းကြောင်းတစ်လျှောက်တွင် မြေဆီလွှာ ပြောင်းလဲထိခိုက်မှုအချို့ ရှိခဲ့ပါသည်။ လမ်းတည်ဆောက်ရေး လုပ်ငန်းများအတွက် လမ်းအူကြောင်း ဖောက်လုပ်ခြင်း၊ စီမံကိန်းလမ်းကြောင်းတစ်လျှောက်ကို သတ်မှတ်ထားသော လမ်းအရည်အသွေး ရရှိအောင် မြေပြုပြင်ခြင်းများကြောင့် မြေဆီလွှာ သိပ်သည်းမှုနှင့် အခြားဂုဏ်သတ္တိများ ပြောင်းလဲခြင်း၊ ကတ္တရာနှင့် လောင်စာဆီများ ယိုဖိတ်ခြင်းတို့ကြောင့် မြေဆီလွှာ ညစ်ညမ်းခြင်း၊ မြေသားလုပ်ငန်းများ ဆောင်ရွက်နေစဉ် လေနှင့်ရေ တိုက်စားမှုများကြောင့် မြေဆီလွှာ ပြုန်းတီးခြင်းများ အထိုက်အလျောက် ဖြစ်ပေါ်ခဲ့မည် ဖြစ်ပါသည်။ သို့သော် သက်ရောက်မှုအများစုမှာ စီမံကိန်း လုပ်ငန်းခွင် လမ်းကြောင်း တစ်လျောက်တွင်သာ ဖြစ်ပေါ်ခဲ့မည် ဖြစ်ပါသည်။

စီမံကိန်းက လမ်းခင်းရာတွင်အသုံးပြုသည့် ဖြုန်းမြေထုတ်လုပ်ရန် မြို့ရှောင်လမ်းဘေး အချို့နေရာများတွင် တောင်နံရံများကို ဖြိုချထားသည်ကို တွေ့ရှိရပါသည်။ ထိုတောင်နံရံများကို သင့်လျော်သောထိန်းသိမ်းမှုများ မဆောင်ရွက်ပါက ရေရှည်တွင် ရေတိုက်စားမှုကြောင့် မြေပြိုကျမှုများ ဖြစ်ပေါ်လာနိုင်ပါသည်။

သက်ရောက်မှု လျှော့ချ/ကုစားရန်

(၁) မြေသားလုပ်ငန်း ဆောင်ရွက်ထားသည့် နေရာများတွင် ရေစီးကြောင်းများ ဖြတ်သန်းစီးဆင်းမှုကြောင့် တိုက်စား ပြိုပျက်မှုများ မဖြစ်ပေါ်အောင် လိုအပ်သည့် ပြုပြင်ထိန်းသိမ်းမှုများ ဆောင်ရွက်ရန်

(၂) လမ်းဘေးဝဲယာတစ်လျောက်တွင် မြေဆီလွှာထိန်းသိမ်းနိုင်သည့် အရိပ်ရအပင်များ ပြန်လည်စိုက်ပျိုးရန်

(၃) တောင်နံရံများကိုဖြိုချထားသည့် နေရာများအနက် လိုအပ်သောနေရာများတွင် သင့်တော်သော မြေထိန်း နံရံများ ပြုလုပ်ပေးရန်

**၂။ သဘာဝရေအရင်းမြစ်များပေါ် အကျိုးသက်ရောက်မှု**

လမ်းမကြီးများ ခင်းကျင်းမှုကြောင့် မိုးရွာသည့်အခါ ရေစိမ့်ဝင်နိုင်သည့် မျက်နှာပြင် လျော့နည်းသွားခြင်းက မြစ်ချောင်းများအတွင်း မိုးရေစီးဝင်မှုကို ပိုမိုများပြားလာစေပါသည်။ မိုးရေစီးဆင်းဝင်ရောက်မှု အလွန်တရာ များပြားပါက ရေတိုက်စားခြင်းနှင့် ရေကြီးနစ်မြုပ်နိုင်ချေ မြင့်လာခြင်းများ အထိုက်အလျောက် ဖြစ်ပေါ်မည် ဖြစ်ပါသည်။

မြို့ရှောင်လမ်းတလျှောက်တွင် နမ့်ယော်ချောင်းအပါအဝင် သဘာဝရေစီးကြောင်းများကို ဖြတ်သန်းဖောက်လုပ်ထားပါသည်။ မြို့ရှောင်လမ်းလုပ်ငန်း ဆောင်ရွက်ခဲ့မှုကြောင့် စီမံကိန်းလမ်းကြောင်း တလျှောက်ရှိ သဘာဝ ရေစီးကြောင်းများအပေါ် အထိုက်အလျှောက် ပြောင်းလဲထိခိုက်မှုများ ရှိခဲ့မည် ဖြစ်ပါသည်။ မြို့ရှောင်လမ်းကို အသုံးပြုသည့် ယာဉ်များမှ စက်သုံးဆီများယိုဖိတ်ခြင်း နှင့် စွန့်ပစ်ပစ္စည်းများမှာလည်း နောက်ဆုံးတွင် အဆိုပါ သဘာဝရေစီးကြောင်းများအတွင်း စီးဝင်ရောက်ရှိကာ သဘာဝရေအရည်အသွေး ထိခိုက်နိုင်ချေ ရှိပါသည်။

သက်ရောက်မှု လျှော့ချ/ကုစားရန်

(၁) မြို့ရှောင်လမ်းတစ်လျှောက်တွင် သဘာဝရေစီးကြောင်းများကို မထိခိုက်စေရန် ရေထုတ်မြောင်းများ လုံလောက်စွာ ထည့်သွင်းဖောက်လုပ်ပေးရန်

(၂) မြို့ရှောင်လမ်းတစ်လျှောက် လမ်းဘေးဝဲယာ လိုအပ်သည့်နေရာများတွင် လမ်းဘေး ရေနုတ်မြောင်းများ စနစ်တကျ ထည့်သွင်းတည်ဆောက်ရန်

(၃) ရေတိုက်စားမှု မြင့်မားနိုင်သည့်နေရာများတွင် ရေထိန်းနံရံ၊ မြေထိန်းနံရံများ လိုအပ်သလို ထည့်သွင်း တည်ဆောက်ရန်

(၄) ရေထုတ်မြောင်းများ၊ ရေနုတ်မြောင်းများ၊ ရေထိန်းနံရံ၊ မြေထိန်းနံရံများကို ပုံမှန် စစ်ဆေးခြင်း၊ ပြုပြင်ထိန်းသိမ်းခြင်းများ ပြုလုပ်ရန်

## ၃။ လေထုပတ်ဝန်းကျင်အပေါ်အကျိုးသက်ရောက်မှု

မြို့ရှောင်လမ်းကိုအသုံးပြု၍ မော်တော်ယာဉ်များ နေ့စဉ်သွားလာမှု များပြားခြင်းကြောင့် ဖုန်မှုန့်များနှင့် မီးခိုးငွေ့များ ထုတ်လွှတ်မှုများပြားကာ လမ်းကြောင်းတစ်လျှောက် ပတ်ဝန်းကျင် လေထုအပေါ် သက်ရောက်မှုအချို့ ရှိမည်ဖြစ်ပါသည်။ သို့သော် လမ်းမကြီးမှာ လူနေထူထပ်သည့် မြို့တွင်းဧရိယာကို ရှောင်ကွင်းရန် ရည်ရွယ်ချက်ဖြင့် ဖောက်လုပ်ထားခြင်းဖြစ်ကာ လမ်းမကြီးတလျှောက်ရှိ ရွာများမှာလည်း လမ်းမကြီးနှင့် လွန်စွာနီးကပ်ခြင်း မရှိသည်ကို တွေ့ရပါသည်။

သက်ရောက်မှု လျှော့ချ/ကုစားရန်

(၁) လုပ်ငန်းမှုရေးတာဝန်သိအစီအစဉ်တွင် မြို့ရှောင်လမ်းကြောင်းတစ်လျှောက်ရှိ ကျေးရွာများ၏ ကျန်းမာရေးကို အထောက်အပံ့ပေးနိုင်မည့်အစီအစဉ်များ ထည့်သွင်းဆောင်ရွက်ရန်

## ၄။ ဆူညံသံနှင့်တုန်ခါမှု

မြို့ရှောင်လမ်းကိုအသုံးပြု၍ မော်တော်ယာဉ်ကြီးများ နေ့စဉ် သွားလာမှုကြောင့် လမ်းကြောင်းတစ်လျှောက်တွင် နဂိုရှိရင်းစွဲ အခြေအနေထက် ဆူညံသံနှင့် တုန်ခါမှုများ ပိုမို ဖြစ်ပေါ်လာနိုင်မည် ဖြစ်ပါသည်။ မြို့ရှောင်လမ်းကြောင်း တစ်လျှောက်တွင် မော်တော်ယာဉ်များ သတ်မှတ်မိုင်နှုန်းထက် ကျော်လွန်မောင်းနှင်ပါက မလိုလားအပ်သော အသံဆူညံမှုနှင့် တုန်ခါမှုများကို ဖြစ်ပေါ်စေပါသည်။ သို့သော် လမ်းမကြီးတလျှောက်ရှိ ကျေးရွာများမှာ လမ်းမကြီးနှင့် လွန်စွာ နီးကပ်မှု မရှိသဖြင့် ဆူညံသံနှင့် တုန်ခါမှုများကြောင့် သက်ရောက်မှုမှာ လွန်စွာပြင်းထန်မှု မရှိနိုင်သည်ကို တွေ့ရပါသည်။

သက်ရောက်မှု လျှော့ချ/ကုစားရန်

(၁) မော်တော်ယဉ်များကို မြို့ရှောင်လမ်းမပေါ်တွင် သတ်မှတ်မိုင်နှုန်းထက် ကျော်လွန်မောင်းနှင်ခြင်း မပြုစေရန် အတွက် သတိပေးဆိုင်းဘုတ်များထားရှိခြင်း

**၅။ အများပြည်သူဘေးအန္တရာယ်ကင်းရှင်းရေး နှင့် ကျန်းမာရေး**

မြို့ရှောင်လမ်းကိုစတင်အသုံးပြုချိန်တွင် ယာဉ်များနေ့စဉ်သွားလာမှုများကြောင့် ဖုန်များထွက်ရှိခြင်း၊ ဆူညံသံများ ဖြစ်ပေါ်ခြင်းတို့ကြောင့် လမ်းဘေးဝဲယာတွင် နေထိုင်သူများ ကျန်းမာရေးထိခိုက်မှုများနှင့် စိတ်အနှောက်အယှက်ဖြစ်ခြင်းများ အထိုက်အလျောက် ဖြစ်ပေါ်နိုင်ပါသည်။

စီမံကိန်းမှ ဖောက်လုပ်သော လမ်းသည် လားရှိုး-နမ္မတူလမ်းနှင့် တွေ့ဆုံဖြတ်သန်းပါသည်။ အဆိုပါ လမ်းဆုံနေရာတွင် မြို့ရှောင်လမ်းမှာ ထိုက်သင့်သည့် အကျယ်အဝန်းရှိသော်လည်း နမ္မတူ လမ်းပိုင်းမှာ အနည်းငယ် ကျဉ်းမြောင်းပါသည်။ လမ်းဆုံလမ်းခွနေရာ ဖြစ်သည့်အတွက် ဈေးဆိုင်ခန်းများရှိခြင်း၊ ကားများ ရပ်တန့်အနားယူကြခြင်း၊ လမ်းအသုံးပြုခ ကောက်ခံရေးစခန်း (Toll Gate) နှင့် နီးကပ်နေခြင်း စသည့် အကြောင်းများ ကြောင့် အဆိုပါ လမ်းဆုံနေရာသည် ယာဉ်အန္တရာယ်ကျရောက်နိုင်ချေ မြင့်မားသည့်နေရာတစ်ခု ဖြစ်နေပါသည်။

**သက်ရောက်မှု လျှော့ချ/ကုစားရန်**

(၁) လမ်းသစ်နှင့် လမ်းဟောင်း ဆုံသည့်နေရာများတွင် လမ်းညွှန် အမှတ်အသား၊ သတိပေး ဆိုင်းဘုတ်များ ပြည့်စုံစွာ တပ်ဆင်ရန်

(၂) လမ်းဆုံနေရာများတွင် မီးပွိုင့်နှင့် အချက်ပြမီးများ လိုအပ်သလို ထားရှိပေးရန်

(၃) နမ္မတူလမ်းဆုံနေရာတွင် လမ်းမီးများ ပြည့်စုံလုံလောက်စွာ တပ်ဆင်ပေးရန်

(၄) လမ်းသစ် နှင့်လမ်းဟောင်း ဆုံသောနေရာများတွင် ယာဉ်အန္တရာယ်လျှော့ချနိုင်သည့် အရှိန်ထိန်း အရံအတား (Slow down)များကို လိုအပ်သည့် နေရာများတွင် စနစ်တကျတွက်ချက်ပြီး ထည့်သွင်း တည်ဆောက်ပေးရန်

(၅) လမ်းဆုံနေရာတွင် လမ်းဧရိယာကို လုံလောက်သည့် အကျယ်အဝန်း ရှိသည်အထိ ချဲ့ထွင်ခင်းကျင်းရန်

**၆။ ဖြတ်သန်းသွားလာမှု အနှောက်အယှက် ဖြစ်နိုင်ခြင်း**

စီမံကိန်းမှဖောက်လုပ်သော လမ်းသည် ရှိရင်းစွဲဒေသခံများ အသုံးပြုနေသောလမ်းများကို ဖြတ်သန်းသွားပါသည်။ အဆိုပါ ဖြတ်သန်းသွားလာသည့် နေရာများတွင် သင့်လျော်သည့် အစီအမံများ မရှိပါက ဒေသခံများ လယ်ယာလုပ်ငန်းများသို့ သွားလာရာတွင် အခက်အခဲများ ကြုံတွေ့နိုင်ပါသည်။ စီမံကိန်းမှ ဒေသခံများ၏ ရှိရင်းစွဲလမ်းများ၊ လယ်ယာလုပ်ငန်းများသို့သွားလာသော လမ်းများနှင့် သောက်သုံးရေရယူရာတွင် အသုံးပြုသည့်လမ်းများကို ထိခိုက်မှုအနည်းဆုံးဖြစ်အောင် ဆောင်ရွက်ရမည် ဖြစ်ပါသည်။

သက်ရောက်မှု လျှော့ချ/ကုစားရန်

(၁) ဒေသခံများ အသုံးပြုနေသော ရှိရင်းစွဲ လမ်းများတွင် အနှောက်အယှက်အဟန့်အတားများ မဖြစ်ပေါ်အောင် အထူးဂရုပြုဆောင်ရွက်ရန်

(၂) စီမံကိန်းမှ ဖောက်လုပ်ထားသည့် လမ်းမကြီးနှင့် ဒေသခံများ အသုံးပြုသော လမ်းများ ဆုံတွေ့ဖြတ်သန်းရာ နေရာများတွင် ဒေသခံများ ဘေးအန္တရာယ် ကင်းရှင်းပြီး အဆင်ပြေချောမွေ့စွာ ဖြတ်သန်းသွားလာနိုင်မည့် အစီအမံများကို ဒေသခံများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရန်

(၃) လူမှုရေးတာဝန်သိ အစီအစဉ်ဖြင့် စီမံကိန်းပတ်ဝန်းကျင် ကျေးရွာများအတွက် သောက်သုံးရေ အလွယ်တကူ ရရှိနိုင်စေရန်အတွက် ကူညီထောက်ပံ့မှုများ ပြုလုပ်ပေးရန်

**၇။ ဒေသခံလယ်သမားများ၏ စီးပွားရင်းမြစ် ဆုံးရှုံးမှု**

လမ်းတည်ဆောက်ရေး အတွက်ဒေသခံများ ပိုင်ဆိုင်သော လယ်ယာမြေများကို အသုံးပြုခဲ့ပြီး လမ်းဘေးဝဲယာတလျှောက်တွင်လည်း လယ်ယာမြေများ တည်ရှိပါသည်။ စီမံကိန်းက အဆိုပါ လယ်သမားများကို တစ်စုံတစ်ရာ အနှောင့်အယှက် မပြုသဖြင့် လယ်သမားများမှာ မိမိတို့ လယ်ယာမြေများကို လွတ်လပ်စွာ လုပ်ကိုင်နိုင်ကြပါသည်။

သို့သော် စီမံကိန်းလမ်း ဖေါက်လုပ်ရာတွင် လယ်ယာမြေများအတွက် ရေသွင်းမြောင်းများ ပိတ်ဆို့ပျက်စီးခဲ့ပါက လယ်သမားများမှာ စိုက်ပျိုးရေရရှိရေး အခက်အခဲများ ဖြစ်ပေါ်နိုင်ကြောင်း တွေ့ရှိရပါသည်။ စီမံကိန်းတွင် ပါဝင်ခဲ့သော လယ်ယာမြေများအတွက် နစ်နာကြေးတစ်စုံတစ်ရာ ပေးအပ်ခဲ့ခြင်းမရှိကြောင်း ဒေသခံများက ဆွေးနွေးကြပါသည်။

**သက်ရောက်မှုလျှော့ချ/ကုစားရန်-**

(၁) လမ်းဖောက်လုပ်ရေးလုပ်ငန်းများကြောင့် ရှိရင်းစွဲရေသွင်း၊ ရေထုတ်မြောင်းများ ပိတ်ဆို့မှုများ ဖြစ်ပေါ်ခဲ့ပါက ဒေသခံလယ်သမားများနှင့် ညှိနှိုင်း၍ မူလထက်မလျော့နည်းသော အခြေအနေရရှိအောင် ဆောင်ရွက်ပေးရန်

(၂) ဒေသခံလယ်သမားများ လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်ရေးအတွက် အထောက်အပံ့ပေးနိုင်မည့် အစီအစဉ်များကို ဒေသခံများနှင့် ဆွေးနွေးတိုင်ပင်၍ လူမှုရေးတာဝန်သိ အစီအစဉ်တွင် ထည့်သွင်းပေးရန်

**၈။ဒေသအထွေထွေစီးပွားရေးဖွံ့ဖြိုးလာနိုင်မှု**

လမ်းစီမံကိန်း စတင်တော့မည်ဟုကြားသိချိန်မှစကာ မြေယာဈေးများ မြင့်တက်လာခဲ့ပါသည်။ မြို့ရှောင်လမ်း စတင်အသုံးပြုချိန်မှစ၍ အနီးအနားရှိ ဒေသခံရပ်ကွက်များတွင် အရောင်းအဝယ် တိုးတက်လာမှု၊ သယ်ယူပို့ဆောင်ရေး ကဏ္ဍများ ဖွံ့ဖြိုးတိုးတက်လာနိုင်မှု၊ လူစည်းကားလာမှုများ စသည်ဖြင့် ဖွံ့ဖြိုးတိုးတက်မှုများ ရရှိလာပါသည်။

မြို့ရှောင်လမ်းကို အသုံးပြု၍ ကားကြီးများ နေ့စဉ်သွားလာမှု များပြားလာမည်ဖြစ်ရာ ဒေသအထွေထွေ စီးပွားရေး လုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်လာနိုင်မည်ဖြစ်သည့်အပြင် ကုန်စည်စီးဆင်းမှု ပိုမိုလွယ်ကူ မြန်ဆန်လာမည်ဖြစ်ပါသည်။

သက်ရောက်မှု မြှင့်တင်ရန် နည်းလမ်းများ

(၁) အလုပ်အကိုင်ခန့်ထားရာတွင် စီမံကိန်းအနီးအပါး ဒေသခံများကို ဦးစားပေးရန်

(၂) လူမှုရေး တာဝန်သိအစီအစဉ်တွင် ဒေသအထွေထွေစီးပွားရေး ဖွံ့ဖြိုးမှုကို အထောက်အပံ့ ပေးနိုင်မည့် အစီအစဉ် များကို ဒေသခံများနှင့် တိုင်ပင်ဆွေးနွေးပြီး ထည့်သွင်းဆောင်ရွက်ရန်

**၉။ ကုန်စည်စီးဆင်းမှု မြန်ဆန်လာခြင်း**

ယခင်လမ်းဟောင်းမှာ ၁၃.၈ မိုင်ခန့်သာ ရှည်လျားသော်လည်း လူနေထူထပ်သည့် လားရှိုးမြို့ကို ဖြတ်သန်း သွားလာရပါသည်။ လူနေထူထပ်သဖြင့် ယာဉ်ကြောပိတ်ဆို့မှု များပြားခြင်း၊ ယာဉ်အန္တရာယ် ဖြစ်ပေါ်မှု မြင့်မားခြင်း စသည်ဆိုးကျိုးများ ကြုံတွေ့ရပါသည်။ မြို့ရှောင်လမ်းသစ်ကို အသုံးပြုလာနိုင်ခြင်းကြောင့် ကုန်စည်စီးဆင်းမှု ပိုမို လွယ်ကူမြန်ဆန်လာပါသည်။ မန္တလေး-မူဆယ်လမ်းသည် တရုတ်-မြန်မာကုန်သွယ်ရေးတွင်အရေးအပါဆုံး လမ်းဖြစ်ပြီး ယာဉ်ကြောပိတ်ဆို့မှုလည်း များပြားသည့် လမ်းမကြီးဖြစ်ပါသည်။ ရှုခင်းသာ၊ ဂုတ်တွင်းလမ်း စသည့်နေရာ များတွင် ယာဉ်ကြောပိတ်ဆို့မှု ဆိုးရွားစွာ ဖြစ်ပေါ်လေ့ရှိပြီး (၃) ရက်နှင့်အထက် ကြာမြင့်သည့် ယာဉ်ကြောပိတ်ဆို့မှုများကြောင့် ကုန်စည်စီးဆင်းမှုများ ရပ်တန့်သွားရသည့် သာဓကများ ရှိခဲ့ပါသည်။ လားရှိုးမြို့ရှောင်လမ်းက အဆိုပါ တရုတ်- မြန်မာ လမ်းမကြီး၏ ယာဉ်ကြောပိတ်ဆို့မှု ပြဿနာများကို တစ်ထောင့်တစ်နေရာမှ ကူညီဖြေရှင်းပေးနေမည် ဖြစ်ပါသည်။

မြှင့်တင်ရန်

(၁) မြို့ရှောင်လမ်းပိုင်းအတွက် ယာဉ်ဖြတ်သန်းခကောက်ခံရေးဂိတ် (Toll Gate) တွင်ယာဉ်ကြောပိတ်ဆို့မှု မဖြစ် ပေါ်စေရန်အတွက် စနစ်တကျဆောင်ရွက်ရန်

(၂) လုပ်ငန်းများ လည်ပတ်လုပ်ဆောင်နေချိန်တွင် လမ်းပြုပြင်ထိန်းသိမ်းရေးလုပ်ငန်းများကို ပုံမှန် လုပ်ဆောင် သွားရန်

(၃) လမ်းကြောင်းတစ်လျှောက် လိုအပ်သည့် လမ်းညွှန်အမှတ်အသားများကို ပြည့်စုံစွာတပ်ဆင်ပေးရန်

**၁၀။ ဇီဝမျိုးစုံ မျိုးကွဲအပေါ်သက်ရောက်မှု**

စီမံကိန်းလမ်းတလျှောက် ဇီဝမျိုးစုံမျိုးကွဲဆိုင်ရာ လေ့လာမှု လုပ်ငန်းရပ်များကို ၂၀၁၅ ခုနှစ် ဒီဇင်ဘာလမှ ၂၀၁၆ ခုနှစ်. ဇန်နဝါရီလအတွင်း ဆောင်ရွက်ခဲ့ပါသည်။ လေ့လာတွေ့ရှိချက်များအရ စီမံကိန်း သက်ရောက်မှု ဧရိယာ အတွင်း ငှက်မျိုးစိတ် (၄၇) မျိုး၊ ကြွက်နှင့် တွားသွားသတ္တဝါ(၁၀) မျိုး၊ လိပ်ပြာ (၁၀) မျိုး၊ ပုစဉ်း (၈) မျိုး၊ ငါး (၈) မျိုး၊ အပင် မျိုးစိတ် (၆၁) မျိုး၊ ရေတွင်ပေါက်ရောက်ရှင်သန်သော အပင်(၄) မျိုး၊ စိုက်သီးနှံ (၁၃) မျိုးတို့ကို တွေ့ရှိရပါသည်။

လေ့လာတွေ့ရှိရသော မျိုးစိတ်များတွင် မျိုးတုံးပျောက်ကွယ်မည့်အန္တရာယ်ရှိသည့် အပင်၊ သတ္တဝါမျိုးစိတ်များ မပါဝင်သည်ကို တွေ့ရပါသည်။ စီမံကိန်းကြောင့် ကုန်းနေရေနေ အပင်များ၊ သတ္တဝါများအပေါ် ကြီးမားပြင်းထန်သည့် ထိခိုက်မှုများ မရှိသည်ကို တွေ့ရပါသည်။

သက်ရောက်မှု လျှော့ချ/ကုစားရန်

(၁) ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်ပါ မြေထု၊ ရေထု၊ လေထု ညစ်ညမ်းမှု လျှော့ချ/ကာကွယ်ရေးဆိုင်ရာ အစီအမံများကို အပြည့်အဝ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

**၁၁။ ရှေးဟောင်းယဉ်ကျေးမှုအမွေအနှစ်များအပေါ်သက်ရောက်မှု**

စီမံကိန်းလမ်းတလျှောက်တွင် အလိုတော်ပြည့်ကျောင်းတိုက်၊ သစ်ခွကျောင်းတိုက်နှင့် ပညာလင်္ကာရ ကျောင်းတိုက် စသည့် ဘုန်းတော်ကြီးကျောင်း (၃) ကျောင်းနှင့် သင်္ချိုင်းမြေ (၂) ခု တည်ရှိသည်ကို တွေ့ရပါသည်။ သို့သော် လားရှိုးမြို့ရှောင်လမ်း စီမံကိန်း ဧရိယာအတွင်း ရှေးဟောင်းယဉ်ကျေးမှု အမွေအနှစ်ဆိုင်ရာ အဆောက်အဦးများ မရှိသည်ကို တွေ့ရပါသည်။ ထို့ကြောင့် စီမံကိန်းကြောင့် ရှေးဟောင်းယဉ်ကျေးမှု အမွေအနှစ်များအပေါ် သက်ရောက်မှု မရှိဘဲ ရှိရင်းစွဲ ဘာသာရေးနှင့် ယဉ်ကျေးမှုဆိုင်ရာ အဆောက်အအုံများအပေါ် ထိခိုက်မှုဖြစ်နိုင် ချေမှာလည်း အလွန်နည်းပါးသဖြင့် ကာကွယ်ထိန်းသိမ်းရေး လုပ်ငန်းရပ်များ လုပ်ဆောင်ရန် အထူးမလိုအပ်သည်ကို တွေ့ရပါသည်။

**၈။လူမှုစီးပွားတာဝန်သိအစီအစဉ် (CSR)**

စီမံကိန်းက နှစ်စဉ်အသားတင်အမြတ်မှ သတ်မှတ်ရာခိုင်နှုန်းကို လူမှုစီးပွားတာဝန်သိအစီအစဉ် အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ သတ်မှတ်ထားသည့်အတိုင်း အသုံးပြုမည် ဖြစ်ပါသည်။ လူမှုစီးပွားတာဝန်သိ အစီအစဉ်အတွက် လားရှိုးမြို့နယ်၏ ပညာရေးကဏ္ဍ၊ ကျန်းမာရေးကဏ္ဍ၊ လူမှုရေးကဏ္ဍ၊ စီးပွားရေးကဏ္ဍ၊ အခြေခံအဆောက်အဦးကဏ္ဍ၊ သဘာဝဘေးအန္တရာယ် ကူညီထောက်ပံ့ရေးကဏ္ဍများတွင် ဒေသခံများ၊ ဒေသဆိုင်ရာ အုပ်ချုပ်ရေး အဖွဲ့အစည်းများနှင့် တိုင်ပင်ညှိနှိုင်းကာ စဉ်ဆက်မပြတ် ပါဝင်ဆောင်ရွက်သွားရန် ဖြစ်ပါသည်။

**၉။တွေ့ရှိချက်များအားထုတ်ဖော်ခြင်း**

ယခုအစီရင်ခံစာ အကျဉ်းချုပ်ပါအချက်အလက်များသည် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း လုပ်ငန်းမှ တွေ့ရှိချက်များကို အနှစ်ချုပ်ဖော်ပြထားခြင်းဖြစ်ပါသည်။ ဤအစီရင်ခံစာပါ အချက်အလက်များကို ရပ်မိရပ်ဖများ အနေဖြင့် သေချာစွာဖတ်ရှုလေ့လာပြီး ဆွေးနွေးလိုသည်များ၊ အကြံပြုလိုသည်များကို လူထုတွေ့ဆုံပွဲတွင် ရင်းနှီးပွင့်လင်းစွာ ဆွေးနွေးအကြံပြုကြပါရန် မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းက မေတ္တာရပ်ခံအပ်ပါသည်။

**၁၀။နိဂုံး**

အိုရီရန်တယ် ဟိုင်းဝေး ကုမ္ပဏီလီမိတက်မှ လားရှိုးမြို့ရှောင်လမ်း စီမံကိန်းအတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်းလုပ်ငန်း (IEE) ပြုလုပ်နေပါသည်။ စီမံကိန်းဆိုင်ရာအချက်အလက်များကို ရပ်မိရပ်ဖများအားတင်ပြကာ ဒေသခံရပ်မိရပ်ဖများ၏ ဆွေးနွေး အကြံပြုချက်များကို ၂၀၁၅ ၊ ဒီဇင်ဘာလ (၁၉-၂၀) ရက်နေ့များတွင် ရယူခဲ့ပါသည်။ စီမံကိန်းလုပ်ငန်းစဉ်များနှင့် သက်ရောက်ခံပတ်ဝန်းကျင်၏အချိတ်အဆက်၊ ရပ်မိရပ်ဖများ၏ သဘောထားအမြင်များ၊ ဆွေးနွေး အကြံပြုချက်များအပေါ် မူတည်ကာအဓိကကျသည့် ပတ်ဝန်းကျင်ဆိုင်ရာနှင့် လူမှုစီးပွား သက်ရောက်မှုများကို ဖေါ်ထုတ်ထားပြီး ၎င်းတို့အနက်မှ (၁၁) ခုကို ဤအနှစ်ချုပ်အစီရင်ခံစာတွင် ရှင်းလင်း တင်ပြထားပါသည်။ ဆိုးကျိုး သက်ရောက်မှုများကို လျှော့ချကုစားရန် နည်းလမ်းများ၊ ကောင်းကျိုး သက်ရောက်မှုများကို ဆပွါးမြှင့်တင်ရန် နည်းလမ်းများကိုလည်း အကျဉ်းရုံး တင်ပြထားပါသည်။ ရပ်မိရပ်ဖများက လေ့လာဖတ်ရှုပြီး ဆွေးနွေးတိုင်ပင်ကြခြင်းအားဖြင့် စီမံကိန်း အကောင်အထည်ဖေါ်မှု လုပ်ငန်းစဉ်တွင် ဒေသခံများ ကိုယ်တိုင်ပါဝင်ဆုံးဖြတ်ခွင့် ရကြမည်ဖြစ်ပါသည်။ ထို့ကြောင့် ဤအနှစ်ချုပ်အစီရင်ခံစာပါ အချက်အလက်များကို လေ့လာဖတ်ရှုပြီး ရင်းနှီးပွင့်လင်းစွာ တိုင်ပင်ဆွေးနွေး အကြံပေးကြပါရန် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ လေးစားစွာ ဖိတ်ခေါ်အပ်ပါသည်။

## သက်ရောက်မှုများနှင့်အရေးယူဆောင်ရွက်ရန်နည်းလမ်းများ

| စဉ် | သက်ရောက်မှု | ဆောင်ရွက်ရန် |
|---|---|---|
| ၁ | မြေထုပတ်ဝန်းကျင်အပေါ်သက်ရောက်မှု | (၁) မြေသားလုပ်ငန်း ဆောင်ရွက်ထားသည့် နေရာများတွင် ရေစီးကြောင်းများ ဖြတ်သန်းစီးဆင်းမှုကြောင့် တိုက်စားပြိုပျက်မှုများ မဖြစ်ပေါ်အောင် လိုအပ်သည့် ပြုပြင်ထိန်းသိမ်းမှုများ ဆောင်ရွက်ရန်<br>(၂) လမ်းဘေးဝဲယာတစ်လျှောက်တွင် မြေဆီလွှာထိန်းသိမ်းနိုင်သည့် အရိပ်ရအပင်များ ပြန်လည်စိုက်ပျိုးရန်<br>(၃) တောင်နံရံများကိုဖြိုချထားသည့် နေရာများအနက် လိုအပ်သောနေရာများတွင် သင့်တော်သော မြေထိန်းနံရံများ ပြုလုပ်ပေးရန် |
| ၂ | သဘာဝရေအရင်းမြစ်များ အပေါ်သက်ရောက်မှု | (၁) မြို့ရှောင်လမ်းတစ်လျှောက်တွင် သဘာဝရေစီးကြောင်းများကို မထိခိုက်စေရန် ရေထုတ်ပြွန်များ လုံလောက်စွာ ထည့်သွင်းဖောက်လုပ်ပေးရန်<br>(၂) မြို့ရှောင်လမ်းတစ်လျှောက် လမ်းဘေးဝဲယာ လိုအပ်သည့်နေရာများတွင် လမ်းဘေး ရေနုတ်မြောင်းများ စနစ်တကျ ထည့်သွင်းတည်ဆောက်ရန်<br>(၃) ရေတိုက်စားမှု မြင့်မားနိုင်သည့်နေရာများတွင် ရေထိန်းနံရံ၊ မြေထိန်းနံရံများ လိုအပ်သလို ထည့်သွင်း တည်ဆောက်ရန်<br>(၄) ရေထုတ်ပြွန်များ၊ ရေနုတ်မြောင်းများ၊ ရေထိန်းနံရံ၊ မြေထိန်းနံရံများကို ပုံမှန် စစ်ဆေးခြင်း၊ ပြုပြင်ထိန်းသိမ်းခြင်းများ ပြုလုပ်ရန် |
| ၃ | လေထုပတ်ဝန်းကျင်အပေါ် သက်ရောက်မှု | (၁) လူမှုရေးတာဝန်သိအစီအစဉ်တွင် မြို့ရှောင်လမ်းကြောင်းတစ်လျှောက်ရှိ ကျေးရွာများ၏ ကျန်းမာရေးကို အထောက်အပံ့ပေးနိုင်မည့်အစီအစဉ်များ ထည့်သွင်းဆောင်ရွက်ရန် |
| ၄ | ဆူညံသံနှင့်တုန်ခါမှု | (၁) မော်တော်ယဉ်များကို မြို့ရှောင်လမ်းမပေါ်တွင် သတ်မှတ်မိုင်နှုန်းထက် ကျော်လွန်မောင်းနှင်ခြင်း မပြုစေရန်အတွက် သတိပေးဆိုင်းဘုတ်များထားရှိခြင်း |

| | | |
|---|---|---|
| ၅ | အများပြည်သူဘေးအန္တရာယ် ကင်းရှင်းရေး နှင့် ကျန်းမာရေး | (၁) လမ်းသစ်နှင့် လမ်းဟောင်း ဆုံသည့်နေရာများတွင် လမ်းညွှန် အမှတ်အသား၊ သတိပေး ဆိုင်းဘုတ်များ ပြည့်စုံစွာ တပ်ဆင်ရန်<br>(၂) လမ်းဆုံနေရာများတွင် မီးပွိုင့်နှင့် အချက်ပြမီးများ လိုအပ်သလို ထားရှိပေးရန်<br>(၃) နမ့်တူလမ်းဆုံနေရာတွင် လမ်းမီးများ ပြည့်စုံလုံလောက်စွာ တပ်ဆင်ပေးရန်<br>(၄) လမ်းသစ် နှင့်လမ်းဟောင်း ဆုံသောနေရာများတွင် ယာဉ်အန္တရာယ်လျော့ချနိုင်သည့် အရှိန်ထိန်း အရံအတား (Slow down) များကို လိုအပ်သည့် နေရာများတွင် စနစ်တကျ တွက်ချက်ပြီး ထည့်သွင်း တည်ဆောက်ပေးရန်<br>(၅) လမ်းဆုံနေရာတွင် လမ်းဧရိယာကို လုံလောက်သည့် အကျယ်အဝန်း ရှိသည်အထိ ချဲ့ထွင်ခင်းကျင်းရန် |
| ၆ | ဖြတ်သန်းသွားလာမှု အနှောက်အယှက် ဖြစ်နိုင်ခြင်း | (၁) ဒေသခံများ အသုံးပြုနေသော ရှိရင်းစွဲ လမ်းများတွင် အနှောက်အယှက်အဟန့်အတားများ မဖြစ်ပေါ်အောင် အထူးဂရုပြုဆောင်ရွက်ရန်<br>(၂) စီမံကိန်းမှ ဖောက်လုပ်ထားသည့် လမ်းမကြီးနှင့် ဒေသခံများ အသုံးပြုသော လမ်းများ ဆုံတွေ့ဖြတ်သန်းရာနေရာများတွင် ဒေသခံများ ဘေးအန္တရာယ် ကင်းရှင်းပြီး အဆင်ပြေချောမွေ့စွာ ဖြတ်သန်းသွားလာနိုင်မည့် အစီအမံများကို ဒေသခံများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရန်<br>(၃) လူမှုရေးတာဝန်သိ အစီအစဉ်ဖြင့် စီမံကိန်းပတ်ဝန်းကျင် ကျေးရွာများအတွက် သောက်သုံးရေများ အလွယ်တကူ ရရှိနိုင်စေရန်အတွက် ကူညီထောက်ပံ့မှုများ ပြုလုပ်ပေးရန် |
| ၇ | ဒေသခံလယ်သမားများ၏ စီးပွားရင်းမြစ် ဆုံးရှုံးမှု | (၁) လမ်းဖောက်လုပ်ရေးလုပ်ငန်းများကြောင့် ရှိရင်းစွဲရေသွင်း၊ ရေထုတ်မြောင်းများ ပိတ်ဆို့မှုများ ဖြစ်ပေါ်ခဲ့ပါက ဒေသခံ လယ်သမားများနှင့် ညှိနှိုင်း၍ မူလထက်မလျော့နည်းသော အခြေအနေရရှိအောင် ဆောင်ရွက်ပေးရန်<br>(၂) ဒေသခံလယ်သမားများ လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်ရေးအတွက် အထောက်အပံ့ပေးနိုင်မည့် အစီအစဉ်များကို ဒေသခံများနှင့် ဆွေးနွေးတိုင်ပင်၍ လူမှုရေးတာဝန်သိ အစီအစဉ်တွင် ထည့်သွင်းပေးရန် |

| | | |
|---|---|---|
| ၈ | ဒေသအထွေထွေစီးပွားရေးဖွံ့ဖြိုးလာနိုင်မှု | (၁) အလုပ်အကိုင်ခန့်ထားရာတွင် စီမံကိန်းအနီးအပါး ဒေသခံများကို ဦးစားပေးရန်<br>(၂) လူမှုရေးတာဝန်သိအစီအစဉ်တွင် ဒေသအထွေထွေစီးပွားရေး ဖွံ့ဖြိုးမှုကိုအထောက်အပံ့ပေးနိုင်မည့် အစီအစဉ်များ ထည့်သွင်းဆောင်ရွက်ရန် |
| ၉ | ကုန်စည်စီးဆင်းမှု မြန်ဆန်လာခြင်း | (၁) မြို့ရှောင်လမ်းပိုင်းအတွက် ယာဉ်ဖြတ်သန်းခကောက်ခံရေးဂိတ် (Toll Gate) တွင်ယာဉ်ကြောပိတ်ဆို့မှု မဖြစ်ပေါ်စေရန်အတွက် စနစ်တကျဆောင်ရွက်ရန်<br>(၂) လုပ်ငန်းများ လည်ပတ်လုပ်ဆောင်နေချိန်တွင် လမ်းပြုပြင်ထိန်းသိမ်းရေးလုပ်ငန်းများကို ပုံမှန် လုပ်ဆောင်သွားရန်<br>(၃) လမ်းကြောင်းတစ်လျှောက် လိုအပ်သည့် လမ်းညွှန်အမှတ်အသားများကို ပြည့်စုံစွာတပ်ဆင်ပေးရန် |
| ၁၀ | ဇီဝမျိုးစုံ မျိုးကွဲအပေါ်သက်ရောက်မှု | (၁) ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်ပါ မြေထု၊ ရေထု၊ လေထု ညစ်ညမ်းမှု လျှော့ချ/ကာကွယ်ရေးဆိုင်ရာ အစီအမံများကို အပြည့်အဝ အကောင်အထည်ဖော် ဆောင်ရွက်ရန်။ |





# ORIENTAL HIGHWAY COMPANY LIMITED

NO.45-46, BAHOSI HOUSING COMPLEX, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL: (95-1) 229421, 229425, FAX: (95-1) 228012, 214637


စာအမှတ်၊ OHC/LashoRd-BOT /MIC/2015
ရက်စွဲ ၊ ၂၀၁၅ခုနှစ်၊အောက်တိုဘါလ( )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ၊ ၊ မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြသည့် လုပ်ငန်းနှင့် ပတ်သက်၍ ပတ်ဝန်းကျင်ထိခိုက်မှု လေ့လာဆန်းစစ်ခြင်းဆောင်ရွက်ရေးကိစ္စကတိခံဝန်ချက်

၁။ ကျွန်တော်များကုမ္ပဏီမှ အဆိုပြုတင်ပြသည့် အရှည်မိုင် (၁၅/၄)မိုင်ရှိ လားရှိုးမြို့ ရှောင်လမ်း သစ်စီမံကိန်းနှင့် ပတ်သက်၍ ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ရေးနှင့် ထိခိုက်မှု မရှိစေရေးအတွက် လေ့လာဆန်းစစ်ခြင်း လုပ်ငန်းစဉ်များကို အောက်ဖော်ပြပါနည်းလမ်းများဖြင့် လိုက်နာဆောင်ရွက် မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုအပ်ပါသည်-

(က) ကုမ္ပဏီနှင့် ယင်း၏ ကန်ထရိုက်တာများသည် စီမံကိန်းကာလ၌ ပြည်ထောင်စုမြန်မာနိုင်ငံတော် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေမှ သတ်မှတ်ထားသော လုပ်ထုံးလုပ်နည်းများ အတိုင်း လိုက်နာ ဆောင်ရွက်သွားရန်၊

(ခ) စီမံကိန်းကြောင့်ဖြစ်စေသော ပတ်ဝန်းကျင်အကျိုးသက်ရောက်မှု အနည်းဆုံးနှင့် အထိရောက်ဆုံးဖြစ်အောင် ဆောင်ရွက်ရန်နှင့် ကုန်ကျစရိတ်များကို စီမံကိန်းကုမ္ပဏီမှကျခံရန်၊

(ဂ) လေ၊ရေ၊မြေ၊အသံ စသည့် ပတ်ဝန်းကျင်အကျိုးသက်ရောက်မှု တိုင်းတာချက်များ ဆောင်ရွက်ရန်၊

(ဃ) စီမံကိန်းကြောင့် ဖြစ်စေသော ပတ်ဝန်းကျင်ဆိုင်ရာ ကိစ္စရပ်များအား စနစ်တကျ ကိုင်တွယ်ဖြေရှင်းရန်၊

(င) လိုအပ်သော ပတ်ဝန်းကျင်အကျိုးထိခိုက်မှု တိုင်းတာရေးလုပ်ငန်း နှင့် စွန့်ပစ်ပစ္စည်းများ ပြန်လည်သန့်စင်ခြင်း လုပ်ငန်းစဉ်များ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိန်းသိမ်း ရေး ဥပဒေ မှ သတ်မှတ် ထားသောစည်းမျဉ်းစည်းကမ်း အတိုင်း လိုက်နာဆောင်ရွက်ရန်၊

(စ) စွန့်ပစ်ပစ္စည်းများ စနစ်တကျ စွန့်ပစ်ရန်နှင့် လူမှုစီးပွားတာဝန်ယူမှုစီမံချက်များရေးဆွဲရန်၊

ရိုသေလေးစားစွာ

MAUNG KYAY
DIRECTOR
ORIENTAL HIGHWAY CO., LTD.

000305



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

## ရင်းနှီးမြှုပ်နှံလိုသူ၏

## အဆိုပြုချက်

ပုံစံ (မနသ-၁)

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
# ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်

[ ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈ ]

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

စာအမှတ် ၊

ရက်စွဲ၊

ကျွန်တော် / ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော် အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါ အချက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏–

(က)အမည် ..................................................................................................

(ခ) အဖအမည် ..............................................................................................

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ..................................................

(ဃ)နေရပ်လိပ်စာ ........................................................................................

..................................................................................................

..................................................................................................

(င) လူမျိုး၊ ဘာသာ ......................................................................................

(စ) အဖွဲ့အစည်း အမည် ................................................................................

(ဆ)လုပ်ငန်း အမျိုးအစား ..............................................................................

(ဇ) အဖွဲ့အစည်း တည်ရှိရာအရပ် ....................................................................

.........................................................................

.........................................................................

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏–

(က) အမည် (၁) ............................................ (၂) ............................................

............................................ ............................................

............................................ ............................................

(ခ) အဖအမည် (၁) ............................................ (၂) ............................................

............................................ ............................................

............................................ ............................................

(ဂ) နိုင်ငံသား/ အမျိုးသား မှတ်ပုံတင်အမှတ်

(၁) ............................................ (၂) ............................................

(ဃ) နေရပ်လိပ်စာ (၁) ............................................ (၂) ............................................

............................................ ............................................

............................................ ............................................

(င) လူမျိုး၊ ဘာသာ (၁) ............................................ (၂) ............................................

............................................ ............................................

............................................ ............................................

(စ) အဖွဲ့အစည်း အမည် ............................................................................................

(ဆ) လုပ်ငန်း အမျိုးအစား ............................................................................................

(ဇ) အဖွဲ့အစည်း တည်ရှိရာအရပ် ............................................................................................

............................................................................................

............................................................................................

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ခု ထက်ပိုပါက သီးခြားစာရွက်တွင် ဖော်ပြ ပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား–

(က) ကုန်ထုတ်လုပ်မှု လုပ်ငန်း ............................................................................................

(ခ) ဝန်ဆောင်မှု လုပ်ငန်း ............................................................................................

(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှု အမျိုးအစားကိုဖော်ပြရန်)

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ–

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..................................................................................................................................

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..................................................................................................................................

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..................................................................................................................................

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဍာန်–

(က) တစ်ဦးတည်းပိုင် ..................................................................................................

(ခ) ဖက်စပ်/အစုစပ် လုပ်ငန်း ...................................................................................

(ဂ) လီမိတက်ကုမ္ပဏီ ..................................................................................................

(ဃ) သမဝါယမအသင်း ...............................................................................................

(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/အများပိုင်ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့်မတည်ငွေရင်းအမျိုးအစား၊ စီမံခန့်ခွဲသူ/စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန်)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက–

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအမျိုးအစားနှင့် ပမာဏ

..................................................................................................................................

(ခ) အကျိုးအမြတ်ခွဲဝေမည့် အမျိုးအစား

..................................................................................................................................

(ဂ) အစုဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ

..................................................................................................................................

(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)။

၇။ သမဝါယမအသင်း/လီမိတက်ကုမ္ပဏီ ဖြစ်ပါက–

(က) ခွင့်ပြု မတည်ငွေရင်း ..........

(ခ) အစုရှယ်ယာ အမျိုးအစား ..........

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ ..........

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ–

(က) မတည်ငွေရင်းပမာဏ (ကျပ်)

(၁) ငွေပမာဏ ..........
(နိုင်ငံခြား မတည်ငွေ ပါဝင်ပါက သီးခြားဖော်ပြရန်)

(၂) စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ ..........
(အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်)

(၃) အဆောက်အအုံများ/မြေ ..........

(၄) ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ
တန်ဖိုးပမာဏ ..........
(အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်)

(၅) ကုန်ကြမ်းပစ္စည်း တန်ဖိုးပမာဏ ..........
(အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်)

(ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့်

| | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့် ပစ္စည်းတို့၏ တန်ဖိုးပမာဏ (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) | .......... | .......... |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြား အလားတူပစ္စည်းများ၏ တန်ဖိုး (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) | .......... | .......... |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | .......... | .......... |

(ဂ) တည်ဆောက်မှုကာလ ..........

(ဃ) ပဏာမ စူးစမ်းလေ့လာမှု ပြုလုပ်မည့်ကာလ ..........

(င) တည်ဆောက်မှု စတင်မည့်အချိန် ..........

၉။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ–

(က) လုပ်ငန်းအမျိုးအစား ..................................................................................................

(ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှု စသည့်ဖြင့်ဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်ဒေသများ ..............................................................................

..........................................................................................................................................

(ဂ) ဆောင်ရွက်ပုံနည်းစနစ် ...............................................................................................

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက်–

| အမျိုးအစား | အရေအတွက် |
|---|---|
| ၁။ ........................................... | ........................................... |
| ၂။ ........................................... | ........................................... |
| ၃။ ........................................... | ........................................... |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက်–

| အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|
| ၁။ လျှပ်စစ်ဓာတ်အား | ........................................... |
| ၂။ ဓာတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | ........................................... |
| ၃။ ဘွိုင်လာ အသုံးပြု အင်ဂျင်စက်အား | ........................................... |
| ၄။ သဘာဝဓာတ်ငွေ့ သုံးစက်အား | ........................................... |
| ၅။ ပေးပို့သည့်အခြားအား (ရေအား/လေအား စသည်များ) | ........................................... |

(စ) နှစ်စဉ် ရေလိုအပ်ချက်
(နေ့စဉ် ရေလိုအပ်ချက်ရှိလျှင် ဖော်ပြရန်)

(ဆ) နှစ်စဉ် လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်း လိုအပ်ချက်

| | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|---|
| ၁။ | အဓိက ကုန်ကြမ်း | | | |
| | (၁) .................... | .................... | .................... | .................... |
| | (၂) .................... | .................... | .................... | .................... |
| ၂။ | အထောက်အကူ ကုန်ကြမ်း | | | |
| | (၁) .................... | .................... | .................... | .................... |
| | (၂) .................... | .................... | .................... | .................... |
| ၃။ | စက်သုံးဆီ/ဓာတ်ငွေ့များ– | | | |
| | (၁) .................... | .................... | .................... | .................... |
| | (၂) .................... | .................... | .................... | .................... |

(ဇ) အဆောက်အအုံ လိုအပ်ချက် ..............................................................................

(ဈ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်း လိုအပ်ချက် ..............................................

..............................................................................................................................

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ဆောင်ရွက်မည့်ဝန်ဆောင်မှု

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| .................... | .................... | .................... | .................... |
| .................... | .................... | .................... | .................... |
| .................... | .................... | .................... | .................... |
| .................... | .................... | .................... | .................... |

(ဋ) ရောင်းချမည့်နည်းစနစ် ..............................................................................

၁၀။ နှစ်စဉ် ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ–

| | ခန့်မှန်းခြေ | |
|---|---|---|
| | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့် ကျပ်ငွေ | ..................... | ..................... |
| (ခ) လိုအပ်မည့် နိုင်ငံခြားသုံးငွေ | | ..................... |
| (ဂ) ရရှိမည့် နိုင်ငံခြားသုံး ငွေပမာဏ | | ..................... |
| (ဃ) ပြည်ပသို့ တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု တန်ဖိုးပမာဏ | ..................... | ..................... |
| (င) နှစ်စဉ် ပြည်တွင်း၌ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု တန်ဖိုးပမာဏ | ..................... | ..................... |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းများ စာရင်း–

(က) ပြည်တွင်းမှ လိုအပ်မည့်အမှုထမ်းများ–

| **အမှုထမ်းအမျိုးအစား** | **ဦးရေ** |
|---|---|
| .................................... | ..................... |
| .................................... | ..................... |
| .................................... | ..................... |
| .................................... | ..................... |
| .................................... | ..................... |

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ–

| ကျွမ်းကျင်မှုအမျိုးအစား | ဦးရေ | ခန့်ထားမည့်အချိန်ကာလ |
|---|---|---|
| ................................ | .................... | ................................ |
| ................................ | .................... | ................................ |
| ................................ | .................... | ................................ |
| ................................ | .................... | ................................ |

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ–

| | ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|
| (က) နှစ်စဉ် ဝင်ငွေရရှိမှု | .................... | .................... |
| (ခ) နှစ်စဉ် လုပ်ငန်းကုန်ကျစရိတ် | .................... | .................... |
| (ဂ) နှစ်စဉ် အသားတင်အမြတ် | .................... | .................... |
| (ဃ) နှစ်အလိုက် ရင်းနှီးမြှုပ်နှံမှု | .................... | .................... |
| (င) အရင်းကျေကာလ | .................... | .................... |
| (စ) အခြား အကျိုးအမြတ်များ | .................... | .................... |

(ဆ) အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့် ..........................................................

အခြေအနေ ..........................................................

..........................................................

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြု တင်ပြသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ၊

(ဂ) လက်ရှိ ဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း / ဖွဲ့စည်းခြင်း မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း၊

(ဃ) လက်ရှိ ဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

လက်မှတ်၊ ..................................................

အမည်၊ ..................................................

ရာထူး၊ ..................................................

(လျှောက်ထားသူ)






# ORIENTAL HIGHWAY COMPANY LIMITED

NO.45-46, BAHOSI HOUSING COMPLEX, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL: (95-1) 229421, 229425, FAX: (95-1) 228012, 214637


စာအမှတ်။ OHC/LashoRd-BOT /MIC/2015
ရက်စွဲ ။ ၂၀၁၆ခုနှစ်၊မတ်လ( )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ။ အဆိုပြုတင်ပြသည့် လုပ်ငန်းနှင့် ပတ်သက်၍ ပတ်ဝန်းကျင်ထိခိုက်မှု လေ့လာဆန်းစစ်ခြင်း ဆောင်ရွက်ရေးလုပ်ငန်းကိစ္စအတွက် ကတိခံဝန်ချက်

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ ၁၆-၂-၂၀၁၆ ရက်စွဲပါစာအမှတ်-မအသ/စီမံ/၀၁၆၀/၂၀၁၅
(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁-၃-၂၀၁၆ ရက်စွဲပါစာအမှတ် - ရက-၄/မ-၁၅၂၂/၂၀၁၆(၃၂၈)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်များ Oriental Highway Co.,Ltd သည် မန္တလေး-လားရှိုး-မူဆယ် လမ်းမကြီးတွင် လားရှိုးမြို့ရှောင်လမ်းသစ် (၁၅/၄)မိုင် အရှည်ကို လမ်းသစ်အဖြစ် ဖေါက်လုပ်၍ လမ်း-တံတား အသုံးပြုခကောက်ခံသည့်လုပ်ငန်းကို B.O.Tစနစ်ဖြင့် ဆောင်လုပ်ရေးဝန်ကြီးဌာနနှင့် ပဋိညာဉ်စာချုပ် ချုပ်ဆိုပြီးလည်းကောင်း၊မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိရေးအတွက် အဆိုပြု တင်ပြထားရှိခဲ့ပါသည်။

၂။ အဆိုပြု စီမံကိန်း၏ ပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ်များ နှင့်ပတ်သက်၍ ရည်ညွှန်း(၂)ပါ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ လမ်းညွှန်ချက်နှင့်အညီ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်နှင့် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းများကို အကောင်အထည်ဖေါ်နိုင်ရေးတို့အတွက် စီမံကိန်း၏ နှစ်စဉ်အမြတ်ငွေမှ ၁ % ကို လူမှုရေးဆိုင်ရာတာဝန်ဆောင်ရွက်မှု (Corporate Social Responsibilitity-CSR)တွင် အသုံးပြုလျှက် ဆောင်ရွက်သွားပါမည်။

(ခ) အဆိုပြုလုပ်ငန်းအတွက် ပတ်ဝန်းကျင်နှင့် လူမှုရေး အကျိုးသက်ရောက်မှု ထိခိုက်မှု မရှိစေရေး သို့မဟုတ် အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination- IEE )ကို ရည်ညွှန်း(၁)ပါဖြင့် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ လုပ်ငန်းအပ်နှံလျှက် ဆောင်ရွက်လျှက်ရှိနေပြီး၊ ပူးတွဲပါ အစီရင်ခံစာ မူကြမ်းကို တင်ပြအပ်ပါသည်။ ၂၀၁၆ခုနှစ် မတ်လ စတုတ္ထအပတ်(သို့မဟုတ်) ဧပြီလ ပထမအပတ်အတွင်း အစီရင်ခံစာကို တင်ပြသွားမည် ဖြစ်ပါသည်။



**ORIENTAL HIGHWAY COMPANY LIMITED**

NO.45-46, BAHOSI HOUSING COMPLEX, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL: (95-1) 229421, 229425, FAX: (95-1) 228012, 214637

(ဂ) အဆိုပါ အစီရင်ခံစာတွင် ပါရှိမည့် လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး အကျိုးသက်ရောက်မှု ထိခိုက်မှု မရှိ စေရေး သို့မဟုတ် အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်ခြင်း၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ် အရည်များ စီမံခန့်ခွဲမှုခြင်း စောင့်ကြပ် ကြည့်ရှု စစ်ဆေးခြင်း၊ ပတ်ဝန်းကျင်နှင့် လူမှုရေး အကျိုးသက် ရောက်မှု ထိခိုက်မှု မရှိစေရေး လုပ်ငန်းစဉ်များအတွက် စီမံကိန်း၏ ဝင်ငွေမှ ရန်ပုံငွေ ထားရှိပြီး ဆောင်ရွက်သွား မည်ဖြစ်ပါသည်။

၃။ အဆိုပြုစီမံကိန်းကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေနှင့် သတ်မှတ်ထားသော လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း လေးစားစွာ တင်ပြအပ်ပါသည်။

လေး စား စွာ ဖြင့်

MAUNG KYAY
DIRECTOR
ORIENTAL HIGHWAY CO., LTD.




မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
**MYANMAR ENGINEERING SOCIETY**
Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm




စာအမှတ် ၊ မအသ / စီမံ / ၁၁၆၀/၂၀၁၅
ရက်စွဲ ၊ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ၊ ၁၆ရက်

သက်ဆိုင်ရာသို့

အကြောင်းအရာ ။ ။ Initial Environmental Examinationလုပ်ငန်းဆောင်ရွက်နေကြောင်းတင်ပြခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ရန်ကုန်မြို့ လမ်းမတော်မြို့နယ်၊ ဗဟိုစည်အိမ်ယာတိုက်အမှတ် ၄၅/၄၆ တွင်ရုံးခန်းဖွင့်လှစ်ထားသော Oriental Highway Company Limited ၏ရှမ်းပြည်နယ်မြောက်ပိုင်းလားရှိုး မြို့နယ်တွင် ဖောက်လုပ်သည့် လားရှိုးမြို့ရှောင်လမ်း တည်ဆောက်ရေးလုပ်ငန်းများအတွက် Initial Environmental Examination လုပ်ငန်းအားဆောင်ရွက်ပေးရန် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ ဆက်သွယ်အကူအညီ တောင်းခံခဲ့သည့်အတွက် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ လုပ်ငန်းလုပ်ဆောင်ပေးနိုင်မည့် အဆိုပြုလွှာ တင်ပြပေးခဲ့ပါသည်။ ယင်းအဆိုပြုလွှာအား Oriental Highway Company Limitedမှ သဘောတူလက်ခံကြောင်း ပြန်ကြားကာပထမအရစ် ကုန်ကျစရိတ်များ ပေးသွင်းပေးပြီးဖြစ်သည့်အတွက် အဆိုပါ Initial Environmental Examination လုပ်ငန်းစဉ်များအား မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ ၂၀၁၅ခုနှစ် ဒီဇင်ဘာလအတွင်း မှစတင်၍စီစဉ်ဆောင်ရွက်ခဲ့ပါသည်။

ယခုအခါတွင် ကွင်းဆင်းလေ့လာရေးလုပ်ငန်းစဉ်များ ပြီးစီး၍ အချက်အလက်များအားလေ့လာသုံးသတ်မှု လုပ်ငန်းစဉ်များ ဆောင်ရွက်နေကြောင်း နှင့် ၂၀၁၆ ဖေဖော်ဝါရီလအတွင်း အစီရင်ခံစာအကြမ်း တင်ပြကာလူထု တွေ့ဆုံပွဲပြုလုပ်သွားရန် စီစဉ်ထားကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

မြင့်စိုး
အမှုဆောင်အရာရှိချုပ်
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

မိတ္တူ။
၁။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
၂။ Environmental Engineering Technical Division, MES
၃။ ရုံးလက်ခံ

